ငါးနာရီထိုးရန် ဆယ်မိနစ်အလိုတွင် ခရိတ်သည် ဇင်ဘာဘွေ ပြန်ကြားရေးဝန်ကြီး၏ ပါလီမန်ရုံးသို့ တယ်လီဖုန်း ဆက်လိုက်သည်။ ပါလီမန် အတွင်းဝန် အမျိုးသမီး က ချက်ချင်းပင် ပြန်ဖြေလေသည်။
' ဝန်ကြီး မစ္စတာတွန်ဂါတာက လူကြီးမင်းကို သောကြာနေ့မနက် ဆယ်နာရီအချိန်မှာ လက်ခံတွေ့ဆုံဖို့ သဘောတူလိုက်ပါပြီ။ သူ့အနေနဲ့ လူကြီးမင်းကို မိနစ်နှစ်ဆယ်လောက် အချိန်ပေးနိုင်မယ်လို့ ဆိုပါတယ် '

' ဟုတ်ကဲ့၊ ကောင်းပါပြီ။ ဝန်ကြီးကိုလည်း ကျေးဇူးအထူးတင်ကြောင်း ပြောလိုက်ပါ '

ခရိတ် က ပြန်ပြောလိုက်သည်။ ဤအတိုင်းဆိုလျှင် ဝန်ကြီးနှင့်တွေ့ရန် နောက်ထပ် သုံးရက်လိုသေးသည်။ ဝန်ကြီးရှိရာ ဟာရာရေမြို့တော်သို့ မိုင်သုံးရာခရီးကိုလည်း မော်တော်ကားဖြင့် အတော်ပင်ပန်းစွာသွားရမည်ဖြစ်သည်။
' ဒါထက် ဖူးရစ်မြို့က ဘာမှ အကြောင်းကြားချက် မရသေးဘူးလားဗျ '

ခရိတ် က ဒင်နီရယ်အား မေးလိုက်သည်။

' ခင်ဗျားက ပေးတဲ့ဈေးနှုန်းမျိုးနဲ့ ကျုပ်တောင် သူတို့နေရာမှာဆိုရင် အရေးစိုက်ပြီး အကြောင်းပြန်မှာ မဟုတ်ဘူး '

ဒင်နီရယ်က သူ၏ဖန်ခွက်ထဲသို့ ဝီစကီအရက် ထပ်ငှဲ့ရင်း ပြန်ပြောလိုက်သည်။  နောက်ရက်များတွင် ခရိတ်သည် သူ၏ဘိုးအေကြီးဘာဂူ၏ မိတ်ဆွေဟောင်းများထံသို့ သွားရောက်လည်ပတ်ခဲ့ရာ အားလုံးက သူ့အား လှိုက်လှိုက်လှဲလှဲကြိုဆိုဧည့်ခံကြလေသည်။

' အရင်တုန်းကလိုတော့ ဖိမ်ခံပစ္စည်းတွေ လိုချင်သလောက် ဝယ်လို့မရဘူးပေါ့ကွယ်။ ဒါပေမဲ့ နေရတာတော့ တယ်ပြီးမဆိုးလှပါဘူး '

အိမ်ရှင်မတစ်ဦးက ခရိတ်အား စားသောက်ဖွယ်ရာများနှင့် တည်ခင်းဧည့်ခံရင်း ပြောလေသည်။

'မာတာဘယ်လီ တိုင်းရင်းသားတွေနေတဲ့ ဒီဒေသရဲ့ထူးခြားချက်က မွေးမြူရေးလုပ်ငန်းအတွက် စားကျက်တွေကအလွန်ကောင်းတယ်။ ဒီဒေသကမွေးမြူရေးခြံတွေက ထုတ်လုပ်တဲ့အမဲသားဆိုရင်လည်း အကောင်းဆုံး အမျိုးအစား အမဲသားဖြစ်တယ်။ ရောင်းချဖို့ ဈေးကွက်ကတော့ တောင်အာဖရိကနိုင်ငံမှာရှိလို့ ဟိုကိုပို့ရတာပဲ နည်းနည်းပင်ပန်းတယ်။ သို့သော်လည်း ရတဲ့ဈေးနှုန်းက သိပ်ကောင်းတဲ့အတွက်ပင်ပန်းရကျိုးနပ်ပါတယ်။ ဩော် ဒါထက် မောင်ရင်တို့ ကျုပ်တို့ရဲ့ မိတ်ဆွေကြီးဆင်းဒါး တစ်

ယောက်ဆီက စာရတယ်။ သူက နယူးဇီလန်နိုင်ငံကို ပြောင်းရွှေ့သွားပြီး ဟို မွေးမြူရေးခြံမှာ ဝင်အလုပ်လုပ်နေတယ် လို့ သိရတယ် ' ဤသို့လည်း နောက်တစ်ဦးက ခရိတ်အား ပြောပြလေသည်။

စိုက်ပျိုးရေး မွေးမြူရေး လုပ်ငန်းရှင်တစ်ဦးကမူ အခက်အခဲအချို့ရှိကြောင်း ပြောပြပြန်သည်။

'ပြဿနာလုံးလုံးမရှိဘူးတော့မဟုတ်ဘူးပေါ့ကွာ။ နိုင်ငံခြားသုံးငွေရဖို့ကအလွန်ခက်ခဲတယ်။ ဒါကြောင့်ငါတို့မှ လယ်ထွန်စက်ယန္တရားအပိုပစ္စည်းတွေရဖို့ ခက်နေတာပေါ့။ ဒါပေမဲ့လည်းအခုတော့ ဝန်ကြီးချုပ်မူဂါဘီအစိုးရအနေနဲ့ တဖြည်းဖြည်း အမြင်ကျယ်စပြုလာပါပြီ။ စားကုန်ထုတ်လုပ်သူတွေကို အရေးတကြီး လိုအပ်တဲ့ပစ္စည်းတွေ နိုင်ငံခြားကဝယ်နိုင်အောင် သွင်းကုန်ပါမစ်တွေ ထုတ်ပေးနေပြီ။ နောက်ပြောစရာက ဇင်ဘာဘွေနိုင်ငံမှာ တယ်လီဖုန်းလိုင်းတွေကမကောင်းလို့ မကြာခဏ တယ်လီဖုန်းဆက်မရဘဲဖြစ်တယ်။ မီးရထားတွေဆိုရင်လည်းအချိန်မမှန်ဘူး ငွေကြေးဖောင်းပွမှုကလည်း ရှိတယ်။ အစိုးရက စာသင်ကျောင်းတွေ ဖွင့်ထားပေမယ့် ငါတို့ကတော့ကလေးတွေကို တောင်အာဖရိကကိုပို့ပြီး စာသင်စေတယ်' 'နိုင်ငံရေး အခြေအနေကကော ဘယ်လိုရှိပါသလဲ ' ခရိတ်က မေးလိုက်သည်။ 'နိုင်ငံရေးအကြောင်း ပြောရရင်တော့ လူမည်းအချင်းချင်း ပဋိပက္ခအကြောင်းပြောရမှာပဲ။ မာတာဘယ်လီတိုင်းရင်းသားတွေနဲ့ရှိုနာအမျိုးသားတွေဟာ ကပ္ပလီလူမည်းအချင်းချင်းဖြစ်ပေမယ့်မသင့်တင့်ကြဘူး။ တစ်ဖက်နဲ့တစ်ဖက် မုန်းတီးကြတယ်။ အဲဒီ ပဋိပက္ခထဲမှာ မျက်နှာဖြူလူမျိုးတွေ ဝင်မပါတာတော်သေးတာပေါ့။ တိုင်းရင်းသား လူမည်းအချင်းချင်း တိုက်ခိုက်သတ်ဖြတ်နေတာတော့ ဘယ်တတ်နိုင်ပါ့မလဲ။ သူတို့ လုပ်ချင်သလို လုပ်ကြပါစေ။ ကျုပ်တို့ကတော့ လုံးဝဝင်ပြီး မပတ်သက်အောင်ခပ်ဝေးဝေးက ရှောင်နေလိုက်တာပဲ။ ဒါကြောင့် အခုဒီမှာနေထိုင်ရတဲ့ ဘဝအခြေအနေက မဆိုးလှဘူးလို့ပြောတာပေါ့။ အရင် ခေတ်ဟောင်းတုန်းကလိုတော့ ဘယ်ဟုတ်မလဲ။ ဒါလည်း ဘယ်တတ်နိုင်ပါ့မလဲ။ အရင်ခေတ်က အခြေအနေမျိုးတော့ ဘယ်နည်းနဲ့မှ ပြန်မရောက်နိုင်တော့ဘူး မဟုတ်လား '

' ခင်ဗျားတို့ အနေနဲ့ နောက်ထပ် မြေယာတွေ မဝယ်ဘူးလား '

ခရိတ်က မေးလိုက်ရာ လုပ်ငန်းရှင်တစ်ဦးက -

' ဝယ်စရာငွေ မရှိဘူး မောင်ရင်ရဲ့ ' ဟု ပြန်ပြောလေသည်။

' တကယ်လို့ ဝယ်စရာငွေရှိရင်ကော '

' အင်း ဝယ်မယ်ဆိုရင်တော့ ဝယ်နိုင်တာပေါ့။ အဲဒီလို ရင်းနှီးမြှုပ်နှံထားလိုက်ခြင်းအားဖြင့် ဒီတိုင်းပြည် အခြေအနေ တည်ငြိမ်တိုးတက်လာရင် အကျိုးရှိနိုင်ပါတယ်။ ဒီလိုမှမဟုတ်ဘဲ တိုင်းပြည်အခြေအနေ မကောင်းရင်တော့ ရင်းနှီးထားတဲ့ငွေတွေ ဆုံးရှုံးသွားနိုင်တယ် '

' ဒါတော့ စီးပွားရေးဆိုတာ နိုင်ငံရေး အခြေအနေ တည်ငြိမ်မှုအပေါ် မူတည်တယ်ဆိုတဲ့ သဘောပါပဲ။ ဘာပဲဖြစ်ဖြစ် အခု ခင်ဗျားတို့ ဒီမှာနေရတဲ့ အခြေအနေက မဆိုးလှဘူး မဟုတ်လား '

' ဟုတ်တယ် မဆိုးပါဘူး။ ကျုပ်ဆိုရင် ဒီတိုင်းပြည် ဇမ်ဘေဇီမြစ်ရေသောက်ပြီး လူလားမြောက်လာ တာပဲ။ အခုကျမှကျုပ်က အင်္ဂလန်ပြည် လန်ဒန်မြို့က မော်တော်ကားမီးခိုးတွေ ထူတဲ့လေကို အသက် ရှူလို့ဝမှာမဟုတ်ဘူး။ သြစကြေလျလိုနိုင်ငံကို သွားလို့လည်း ပျော်ပိုက်မှာ မဟုတ်ဘူး '

*

ကြာသပတေးနံနက်တွင် ခရိတ်သည် သူတည်းခိုရာ ဟိုတယ်သို့ ပြန်လာခဲ့ပြီးနောက် ကျသင့်ငွေကို ရှင်းပေးကာ ဟိုတယ်မှ ထွက်လာခဲ့လေသည်။ ထို့နောက် လေလံတင်ရောင်းချရေး ကုမ္ပဏီသို့ဝင်၍ ဒင်နီရယ်အား သတင်းမေးလေသည်။

' ဘယ်လို လဲဗျ။ ဇူးရစ်မြို့က ဘာမှ သတင်းမရဘူးလား '

' လွန်ခဲ့တဲ့ တစ်နာရီလောက်ကပဲ တဲလ်တက်စ်ကြေးနန်းရောက်လာတယ်။ ဟောဒီမှာ ရော့ '

ပြောပြောဆိုဆိုဒင်နီရယ်က ကြေးနန်းစာကိုလှမ်းပေးသဖြင့် ခရိတ်လည်းယူ၍ဖတ်ကြည့်ရာ အောက်ပါ အတိုင်းရေးထားသည်ကို တွေ့ရလေသည်။

"ရိုလင်ကုမ္ပဏီ၏ အစုရှယ်ယာအားလုံးကို ဒေါ်လာငွေငါးသိန်းဖြင့် ရောင်းမည်။ ငွေကို ဇူးရစ်မြို့တွင် ပေးချေရမည်။ ဤကမ်းလှမ်းချက်သည် ရက်ပေါင်း သုံးဆယ်အတွင်းသာ အတည်ဖြစ်သည်။ ထိုရက် ကျော်လွန်လျှင် တာဝန်မခံနိုင်၊ ထိုဈေးနှုန်းထက်လည်း မလျှော့နိုင်"

ဒင်နီရယ်သည် ခရိတ်၏ မျက်နှာကို အကဲခတ်ကြည့်နေရာမှ -

"ဘယ်နယ့်လဲ ကိုယ့်လူ၊ ဒေါ်လာငွေ ငါးသိန်း ရှာနိုင်ပ့ါမလား"ဟု မေးလိုက်သည်။

"ဒါတော့ ကြံဖန် ကြိုးစားရမှာပေ့ါ။ ဒါပေမယ့် ကျုပ်အဖို့ ရက်ပေါင်းသုံးတယ် အချိန်ရသေးတယ် မဟုတ်လား။ အဲဒီအချိန်မတိုင်မီ ကျုပ်တစ်ခေါက် ထပ်လာဦးမယ်"

"ဆက်သွယ် ချင်ရင် ခင်ဗျားကို ဘယ်မှာ ဆက်သွယ်ရမလဲ"

"ခင်ဗျားက ဆက်သွယ်ဖို့ မကြိုးစားနဲ့၊ ကျုပ်က ခင်ဗျားကို ဆက်သွယ်ပါ့မယ်"

ဤသို့ပြောပြီး ခရိတ်သည် ဒင်နီရယ်ထံမှ နောက်ထပ် ဓာတ်ဆီတောင်း၍ ဖောက်ဝက်ဂွန်ကားတွင် တိုင်ကီအပြည့်ထည့်လိုက်သည်။ ထို့နောက် အရှေ့မြောက်စူးစူးရှိ ဟာရောရေမြို့ဆီသို့ မောင်းထွက်ခဲ့လေသည်။ မြို့ပြင်ထွက်၍ ဆယ်မိုင်ခန့်သွားမိသောအခါ စစ်ဆေးရေး ဂိတ်တစ်ခု တွေ့ရလေသည်။ လုံခြုံရေးအတွက် မော်တော်ယာဉ်များအားရပ်တန့်ရှာဖွေစစ်ဆေးသည့်ဂိတ်ပင်ဖြစ်သည်။ခရိတ်သည်လည်း သူ၏ဖောက်ဝက်ဂွန်းကားကိုရပ်ပေးလိုက်ရာ ကပွလီ(လူမည်း)စစ်သားနှစ်ဦးတို့မော်တော်ကားအတွင်း လက်နက်ခဲယမ်း တစ်စုံတစ်ရာ ရှိမရှိ သေချာစေ့စပ်စွာ ရှာဖွေကြလေသည်။ ထိုအချိန်မှာပင် ဇင်ဘာဘွေ တတိယတပ်မဟာ အမှတ်တံဆိပ်ပါ ဦးထုပ်ဆောင်းထားသူ အရာရှိ (လက်ဖတင်နင်) တစ်ဦးက ခရိတ်၏ ပတ်စ်ပို့ကို တောင်းယူပြီး စစ်ဆေးကြည့်ရှုလေသည်။

(တတိယမြောက် တပ်မဟာသည် လွတ်လပ်သော ဇင်ဘာဘွေနိုင်ငံ၏ စစ်တပ်တွင် နာမည်ကြီးတပ်တတပ်ဖြစ်ပြီး ယင်းတပ်မှ စစ်သည်များအား နိုင်ငံခြားနည်းပြရာများက လေ့ကျင့် သင်ကြားပေးခဲ့ သည်ဟု သိရသည်။)

ခရိတ်၏ပတ်စ်ပို့ (နိုင်ငံကူးလက်မှတ်)မှာ ဗြိတိသျှပတ်စ်ပို့ဖြစ်ရာ ယခုအချိန်အထိ ထိုပတ်စ်ပို့များကို ဇင်ဘာဘွေနိုင်ငံတွင် လေးစားလျက်ရှိကြသေးသဖြင့် နာမည်ကြီး "တတိယတပ်မဟာ"မှ အရာရှိသည်လည်း ခရိတ်၏ပတ်စ်ပို့ကြောင့် ရည်မွန်စွာဆက်ဆံလေသည်။ ညနေစောင်းသော် ခရိတ်သည် ဇင်ဘာဘွေနိုင်ငံ၏ မြို့တော်ဟာရောရေမြို့သို့ ရောက်ရှိသွားလေသည်။

[မှတ်ချက်။ ။ဟာရောရေမြို့၏ မူလနာမည်မှာ ဆောလ်စ်ဘာရီမြို့သည် ဗြိတိသျှ အင်ပါယာကြီးဘုန်းမီး ထွန်းလင်းတောက်ပစဉ်က ဗြိတိသျှ နိုင်ငံခြားရေးဝန်ကြီး လောဒ်ဆော်လ်စ်ဘာရီအား ဂုဏ်ပြုသည့် အနေဖြင့် သူ၏နာမည်ကို အသုံးပြုခဲ့ခြင်းဖြစ်သည်။

ရိုဒီးရှားနိုင်ငံ လွတ်လပ်ရေးရပြီး ဇင်ဘာဘွေနိုင်ငံ ဖြစ်လာသောအခါ မြို့တော်၏အမည်ကိုလည်း ဟာရောရေဟု ပြောင်းလိုက်ခြင်းဖြစ်သည်။ ဟာရောရေဆိုသည်မှာ ဒေသခံတိုင်းရင်းသား ရှိုနာလူမျိုး၏အကြီးအကဲ (စော်ဘွားကဲ့သို့ပုဂ္ဂိုလ်တစ်ဦး)၏ နာမည်ကို ယူထားခြင်း ဖြစ်သည်။

ခရိတ်သည် မြို့တွင်းသို့ရောက်လျှင် အခြေအနေကို အကဲခတ် ကြည့်လေသည်။

အမှတ်တမဲ့ကြည့်လိုက်သော် ဟာရောရေမြို့မှာ ဖွံ့ဖြိုးတိုးတက်နေသည့်ပုံမျိုး ဖြစ်နေပြီ လမ်းများ တွင်လည်း အထူးစည်ကားနေသည်ကို တွေ့ရသည်။ ဆယ့်ခြောက်ထပ်ရှိသော မိုနိမာတာပါ ဟိုတယ်ကြီးကလည်း အလွန်ခေတ်မီပြီး ခမ်းနားသပ်ရပ်လှပေသည်။ ထိုဟိုတယ်၌ ဘာသာစကား မျိုးစုံလည်း ကြားနေ ရသည်။

တိုးရစ္စ ကမ္ဘာလှည့်ခရီးသည်များအပြင် နိုင်ငံခြားမှ လာရောက်သည့် စီးပွားရေးကုန်သွယ် ရေးဆိုင်ရာပုဂ္ဂိုလ်များ၊ ဘဏ်တိုက်သူဌေးကြီးများ၊ နိုင်ငံခြားမှ ထိပ်သီးနိုင်ငံရေးခေါင်းဆောင်များ ကဲ့ သို့ သော အထူးဧည့်သည်တော်များ ယင်းဟိုတယ်၌ တည်းခိုကြသောကြောင့် ဘာသာစကားမျိုးစုံ ကြားနရခြင်းပင် ဖြစ်သည်။ ဇင်ဘာဘွေစစ်တပ်အား လေ့ကျင့်သင်ကြားပေးသူ နိုင်ငံခြားမှ စစ်ဘက် အကြံပေးပုဂ္ဂိုလ်များလည်း ရှိပေသည်။

ခရိတ်သည် ထိုဟိုတယ်ကြီး၌ပင် တည်းခိုရန် စိတ်ကူးပြီး သွားရောက်သောအခါ တာဝန်ကျ ဟိုတယ်စာရေးကအခန်းလွတ်မရှိဟုပြောလေသည်။သို့သော်ခရိတ်ကလက်မလျှော့ဘဲလက်ထောက် မန်နေဂျာထံသို့ သွားရောက်ပြောကြည့်လေသည်။

ကံအားလျော်စွာ ထိုလူမှာ ခရိတ်၏ စာအုပ်ကို ဖတ်ဖူးသည့်ပြင်၊ ရုပ်မြင်သံကြားဇာတ်လမ်း အဖြစ် ထုတ်လွှင့်သည်ကိုလည်း ကြည့်ရသဖြင့် အဆင်ပြေသွားကာ ခရိတ်အား ဟိုတယ်ဆယ့်ငါးထပ်ရှိ အခန်းတစ်ခန်း ရရှိအောင်စီစဉ်ပေးလေသည်။

ခရိတ်လည်း ထိုအခန်းကို လက်ခံယူပြီးနောက် ရေမိုးချိုး ကိုယ်လက်သန့်စင်နေစဉ် ဟိုတယ် ဝန်ထမ်းများက သူ့အတွက်ပန်းစည်းများ၊ သစ်သီးများနှင့် တောင်အာဖရိကနိုင်ငံလုပ် ရှန်ပိန်အရက် တစ်ပုလင်းပါ လာပို့ပေးသည်။ ဟိုတယ်မန်နေဂျာက ခရိတ်အား မိတ်ဆက်လက်ဆောင်အဖြစ် ပို့ခိုင်းလိုက်ခြင်းပင် ဖြစ်သည်။

ခရိတ်သည် ထိုနေ့အဖို့ ပြင်ဘက်မထွက်တော့ဘဲ ဟိုတယ်အခန်းတွင်းမှာပင်နေပြီး ကမ္ဘာ့ဘဏ် ဒုဥက္ကဋ္ဌဟင်နရီထံသို့ အစီရင်ခံစာထိုင်ရေးရာ ညသန်းခေါင်အချိန်ကျမှပင် ပြီးသွားလေသည်။ နောက် တစ်နေ့နံနက် ကိုးနာရီခွဲတိတိတွင် သူသည် ဇင်ဘာဘွေဝန်ကြီးတွန်ဂါတာနှင့်တွေ့ဆုံရန် ပါလီမန် လွှတ်တော် အဆောက်အအုံသို့ သွားလေသည်။ သို့ရာတွင် ဝန်ကြီး၏အတွင်းရေးမှူးက ခရိတ် အား လေးဆယ့်ငါးမိနစ်တိတိ စောင့်ခိုင်းပြီးမှ ဝန်ကြီး၏ရုံးခန်းသို့ ခေါ်သွားလေသည်။

ဇင်ဘာဘွေဝန်ကြီး တွန်ဂါတာသည် ခရိတ်ကို မြင်မြင်ချင်း သူ့၏ စားပွဲတွင် ထိုင်နေရာမှ မတ်တပ်ထလိုက်သည်။ ခရိတ်သည်တစ်ချိန်ကရင်းနီးစွာ သိကျွမ်းခင်မင်ခဲ့သူ မာတာဘယ်လီအမျိုးသား တွန်ဂါတာအား အကဲခတ်ကြည့်လိုက်လျှင် ယခင်ကထက်စာလျှင် ထူးထူးခြားခြား တည်ငြိမ်ရင့်ကျက်ကာ ဩဇာညောင်းသည့် ခေါင်းဆောင်တစ်ဦးအသွင် ဆောင်လျက်ရှိကြောင်း သတိပြုမိလေသည်။

တစ်ချိန်တည်းမှာပင် ခရိတ်သည် အတိတ်က ဖြစ်ရပ်အချို့ကို သတိရမိသည်။

တစ်ချိန်က တွန်ဂါတာသည် ခရိတ်၏တပည့်ဖြစ်ခဲ့ဖူးသည်။ တောနက်များသို့ သွားသည့်အခါ တွန်ဂါတာက ခရိတ်၏သေနတ်ကို ထမ်းလိုက်ရလေသည်။ ဤကား ယခင်မျက်နှာဖြူ အစိုးရလက်ထက်၊ ခရိတ်သည် အစိုးရ၏ တောရိုင်းတိရစ္ဆာန်များ ကာကွယ်စောင့်ရှောက်ရေးဌာနတွင် အရာရှိအဖြစ် အမှုထမ်းခဲ့စဉ်ကဖြစ်သည်။ တစ်ခုတော့ရှိသည်။ တွန်ဂါတာသည် သာမန်တိုင်းရင်းသား လူမည်းတစ်ဦးမဟုတ်။ မာတာဘာလီ တိုင်းရင်းသားတို့တွင် ရှေးအခါက ဘုရင်ရှိခဲ့ရာ တွန်ဂါတာသည် မာတာဘယ်လီဘုရင်များ၏ မျိုးရိုးနွယ်မှ ဆင်းသက်ပေါက်ဖွား လာခဲ့သူဖြစ်သည်။

သူ၏အဘိုး၏ ဘခင် ဘာဖိုသည် ၁၈၉၆ ခုနှစ်က မျက်နှာဖြူ ဗြိတိသျှ အစိုးရအား လက်နက်ကိုင်တော်လှန်ရေး ခေါင်းဆောင် ဖြစ်ခဲ့သည်။ သို့သော် တော်လှန်ရေး  မအောင်မြင်ဘဲ အရေးနိမ့်သွားသဖြင့် ဘာလီသည် ကြိုးပေးကွပ်မျက်ခြင်း ခံခဲ့ရသည်။ တစ်ဖန် သူ၏ အဘိုး၏ အဘိုး ဂန်ဒန်ဆိုသူမှာ မာတာဘယ်လီ လူမျိုးတို့၏ နောက်ဆုံးဘုရင် လိုတင်ဂူလာနှင့် ဖအေတူ မအေကွဲ ညီအစ်ကိုတော်စပ်လေသည်။ ယခု ဘူလာဝေယိုမြို့သည် မာတာဘယ်လီဘုရင်နှင့်တကွ ခေါင်းဆောင်အားလုံးကို တိုက်ခိုက်သတ်ဖြတ်ခဲ့သည်။

ယခု ဇင်ဘာဘွေနိုင်ငံ လွတ်လပ်ရေးအတွက် တိုင်းရင်းသား လူမည်းတို့၏ မျက်နှာဖြူ အစိုးရအား တိုက်ခိုက် တော်လှန်ခဲ့သော တော်လှန်ရေးစစ်ပွဲတွင် တွန်ဂါတာသည်အလွန်ထူးချွန် ထက်မြက်သော ပြောက်ကျား စစ်ခေါင်းဆောင်တစ်ဦးဖြစ်သည်။ ခရိတ်သည်ယခုတစ်ဖန် မိတ်ဆွေဟောင်း တွန်ဂါတာအား နှုတ်ဆက်လိုက်ရာ တွန်ဂါတာကလည်း ယင်းဘာသာဖြင့်ပင် ပြန်ပြောလေသည်။ သို့သော် သူ၏ ဟန်အမူအရာက ခရိတ်အားတွေ့ဆုံရသည်ကို ဝမ်းသာသည့်ဟန်မဟုတ်ဘဲ မျက်နှာထား ခပ်တင်းတင်းဖြစ်နေသည်။

"တစ်ချိန်တုန်းက ကျုပ်က ခင်ဗျားကို ဒီနိုင်ငံက ထွက်သွားဖို့ တိုက်တွန်းခဲ့တယ်။ ခင်ဗျားနဲ့ ကျုပ်၊

တစ်ယောက်ပေါ်တစ်ယောက် ကျေးဇူးရှိခဲ့တာတွေလည်း စာရင်းရှင်းခဲ့ပြီးတော့ ကျုပ်က ခင်ဗျားကို ထွက်သွားခိုင်း တယ်မဟုတ်လား"

"ခင်ဗျား ကျုပ်အတွက် ဆောင်ရွက်ပေးခဲ့တာတွေကိုလည်း ကျေးဇူးအထူးတင်ပါတယ်"

ခရိတ် ကလည်း မပြုံးမရယ်ဘဲ ခပ်တည်တည် ပြန်ပြောလိုက်သည်။

ဇင်ဘာဘွေနိုင်ငံ လွတ်လပ်ရေးရပြီးနောက် ပြည်တွင်းမှပစ္စည်းများ ပြည်ပသို့ ထုတ်ယူသွားခြင်းကို ကျပ်တည်းစွာ တားမြစ်ထားရာ ခရိတ်၏ကိုယ်ပိုင်သဘော်ာ ဘာဝူကို နိုင်ငံခြားထုတ်ယူခွင့် ထုတ်ကုန် ပါမစ်ရရှိအောင် ဝန်ကြီး တွန်ဂါတာက ကူညီဆောင်ရွက်ပေးခဲ့သဖြင့် ခရိတ်က ကျေးဇူးတင်ကြောင်း ပြော လိုက်ခြင်း ဖြစ်သည်။

"ကျုပ်က ခင်ဗျား ကျေးဇူးတင်တာကို မလိုချင်ဘူး"

"အခု ကျုပ်က ခင်ဗျားကို မိတ်ဆွေအဖြစ်နဲ့လာပြီး ဆက်ဆံတာကိုကော လက်မခံချင်ဘူးလား"

ခရိတ် က အကဲစမ်းသည့် သဘောဖြင့်မေးလိုက်သည်။

"မိတ်ဆွေအဖြစ် ဆက်ဆံရေးဟာ တော်လှန်ရေးတိုက်ပွဲ စစ်မြေပြင်မှာ ကျန်ရစ်ခဲ့ပြီ။ ခင်ဗျားဟာ ဒီနိုင်ငံက ခင်ဗျားရဲ့ဆန္ဒအလျောက် ထွက်ခွာသွားခဲ့တယ်။ အခု ဘာကြောင့် ပြန်လာတာလဲ"

"ဘာကြောင့်လဲဆိုတော့ ဒီနိုင်ငံကို ကျုပ်ရဲ့ မြေယာလို သဘောထားတဲ့ အတွက်ပဲ"

ခရိတ် ပြောလိုက်လျှင် တွန်ဂါတာသည် ဒေါသထွက်သည့်ဟန်မျိုး ဖြစ်လာသည်။

"ဩော် ဒီနိုင်ငံကမြေယာတွေဟာ ခင်ဗျားရဲ့မြေယာလို့ပြောလိုက်တာလား၊ ခင်ဗျားပြောလိုက်ပုံက မျက်နှာဖြူနယ်ချဲ့သမားတစ်ယောက် ပြောသလိုလေသံမျိုး ဖြစ်နေပါကလား"

"ကျုပ်က အဲဒီသဘောမျိုးနဲ့ ပြောတာ မဟုတ်ပါဘူး"

"ဒီနိုင်ငံမြေယာတွေကို ခင်ဗျားတို့ မျက်နှာဖြူလူမျိုးတွေ သေနတ်နဲ့ ခြိမ်းခြောက်ပြီး အဓမ္မယူခဲ့ တယ်။ နောက်ပိုင်းကျတော့ ကျုပ်တို့ တိုင်းရင်းသားတွေက သေနတ်နဲ့ ပြန်ခြိမ်းခြောက်ယူတော့မှပဲ မြေယာတွေကို ပြန်စွန့်လွှတ်ခဲ့တယ်။ ဒါကြောင့် ခင်ဗျားရဲ့ မြေယာဆိုတဲ့ စကားမျိုး မပြောပါနဲ့"

"ခင်ဗျားက စစ်တိုက်တဲ့နေရာမှာ ပြင်းထန်သလောက် မုန်းတီးတဲ့နေရာမှာလည်း ပြင်းထန်နေတာ ကိုး။ ကျုပ်ကတော့ဒီနိုင်ငံကိုပြန်လာတာဟာ မုန်းတီးတဲ့စိတ်မွေးဖို့လာခဲ့တာ မဟုတ်ဘူး။ ပြန်လာရတဲ့ အကြောင်းက ကျုပ်ရဲ့နှလုံးသားအတွင်းက ဆွဲဆောင်မှုကြောင့် ပြန်လာတာပဲ။ ပြည်တွင်းစစ်ကြောင့် ပျက်စီးခဲ့ရတဲ့ ဒီနိုင်ငံပြန်လည်ထူထောင်ရေးမှာ ကျုပ်ကတစ်ဖက်တစ်လမ်း ကူညီနိုင်လိမ့်မယ်ထင်လို့ လည်း လာခဲ့တာပဲ"

ခရိတ်၏ စကားအဆုံးတွင် တွန်ဂါတာသည် ရုတ်တရက် ဘာမှ ပြန်မပြောသေးဘဲ တစ်စုံတစ်ခုကို လေးနက်စွာ စဉ်းစားနေဟန်ဖြင့် ဆိတ်ဆိတ်နေလေသည်။ ခဏကြာမှ စကားဆက်ပြောလေသည်။

"ခင်ဗျားဟာ ကင်းလင်းစိုက်ပျိုးမွေးမြူရေးခြံရှိရာကို သွားခဲ့တယ်။ ပြီးတော့ အဲဒီကတဆင့် မြောက်ဘက် ချီဇာရီနယ် ကို သွားခဲ့တယ်"

တွန်ဂါတာ ဤသို့ ပြောလိုက်လျှင် ခရိတ်သည် အံ့သြသွားမိသည်။

"ခင်ဗျားရဲ့ မျက်လုံးတွေက အလွန်စူးရှပြီး အမြင်လည်း သိပ်သန်ပါကလား။ ခင်ဗျားက ကျုပ်ရဲ့ လှုပ်ရှားမှု အားလုံးကို မြင်တာပဲကိုး"

ခရိတ်က ဝန်ခံသည့်အနေဖြင့် ပြန်ပြောလိုက်သည်။

"နောက်ပြီး ခင်ဗျားဟာ အဲဒီမြေတွေရဲ့ ပိုင်ဆိုင်မှုစာရွက်စာတမ်းတွေကို မိတ္တူကူးယူဖို့ စီစဉ်ခဲ့ တယ်။ မြေယာဝယ်ယူဖို့ ပြင်ဆင်မှုတွေပြုလုပ်ခဲ့တယ်။ ခင်ဗျားနားလည်ထားဖို့က ဇင်ဘာဘွေနိုင်ငံ မှာ မြေယာ အရောင်းအဝယ်လုပ်ရင် အစိုးရရဲ့ သဘောတူ ခွင့်ပြုချက်ရမှသာ လုပ်နိုင်တယ်ဆိုတာ နားလည်တယ်မဟုတ်လား မြေယာဝယ်ယူမယ်ဆိုရင် အဲဒီမြေကိုဘယ်ပုံဘယ်နည်း အသုံးချတယ် ဆိုတာရယ်၊ လုပ်ငန်းလုပ်ဖို့ ရင်းနှီးမြှုပ်နှံငွေ ဘယ်လောက်ရှိတယ်ဆိုတာကိုပါ အစိုးရကိုတင်ပြဖို့ လိုတယ်"

"ကျုပ် ဒါတွေ နားလည်ပါတယ်"

"ဒါနဲ့များ ခင်ဗျားကမိတ်ဆွေအဖြစ် ဆက်ဆံလိုပါတယ်ဆိုပြီး ကျုပ်ဆီကိုလာခဲ့တယ်။ မိတ်ဆွေ ဟောင်းအဖြစ် ခင်ဗျားက ကျုပ်ဆီက အကူအညီတောင်းမလို့မဟုတ်လား"

ခရိတ်သည် စိတ်ပျက်ဟန်ဖြင့် ဆိတ်ဆိတ်နေလိုက်ရာ တွန်ဂါတာက ဆက်လက်၍ "မျက်နှာဖြူ လုပ်ငန်းရှင် တစ်ဦးက မာတာဘယ်လီ မိသားစု ငါးဆယ်ကို စားဝတ်နေရေး ပြေလည်အောင် ဖန်တီး

ပေးနိုင်တယ်။ ဒါပေမဲ့ အဲဒီမျက်နှာဖြူလုပ်ငန်းရှင်တစ်ဦးက အကြီးအကျယ် တိုးတက်ကြီးပွား ချမ်းသာနိုင်သလောက် တိုင်းရင်းသား အလုပ်သမား ဆင်းရဲသားတွေကတော့ မသေရုံတမည် မဝတဝစားရပြီး အဝတ်အစားတောင် ကောင်းကောင်းမဝတ်နိုင်ကြဘူးမဟုတ်လား"ဟု သရော်သလို ပြောလိုက်သည်။

ထိုအခါ ခရိတ်သည် စိတထဲမှ ထောင်းခနဲ ဒေါသထွက်မိလေသည်။

"ဒီမယ် ကျုပ်ပြောပါဦးမယ်။ မျက်နှာဖြူလူမျိုး စိုက်ပျိုးမွေးမြူရေး လုပ်ငန်းရှင်တစ်ဦးက အလုပ်လုပ်ဖို့အတွက် ဒီနိုင်ငံအတွင်းကို ဒေါ်လာငွေသန်းချီပြီး ရင်းနှီးမြှုပ်နှံငွေတွေ သွင်းယူလာရတတယ်။ မာတာဘယ်လီ တိုင်းရင်းသား အမြောက်အမြားကို အလုပ်အကိုင်ပေးတဲ့အပြင် သူတို့ရဲ့ စားဝတ်နေရေးသာမက သားသမီးတွေ ပညာသင်ကြားရေးပါ အဆင်ပြေအောင် ဖန်တီးပေးတယ်။ မျက်နှာဖြူလူမျိုးတွေက အကျိုးပြုနိုင်ခဲ့တာတွေကိုတော့ ထည့်မစဉ်းစားတော့ဘူးလား"

ခရိတ် က မခံချင်သဖြင့် ပြောလိုက်သော်လည်း တွန်ဂါတာက လက်မခံချေ။

"ခင်ဗျားအဖို့ ဒီနိုင်ငံမှာ ဘာမှ လုပ်စရာမလိုဘူး။ ခင်ဗျားရဲ့ ဇိမ်ခံသင်္ဘောကို ပြန်သွားရင် ကောင်းလိမ့်မယ်။ ခင်ဗျားနာမည်ကျော်ကြားတဲ့ နေရာကိုပဲ ပြန်သွားလိုက်ပါ။ ကျုပ်တို့နိုင်ငံမှာ ခင်ဗျားရဲ့ ခြေတစ်ဖက် ပြတ်ခဲ့ရတာလောက်နဲ့ တော်လောက်ပြီလို့ ယူဆပါ။ ကြာရင် ခင်ဗျားရဲ့ခေါင်းပါ ပြုတ်သွားနိုင်တဲ့ အခြေအနေမျိုး ရောက်သွားလိမ့်မယ်။ ကျုပ်ခင်ဗျားကို ဆက်ပြောစရာဘာမှ မရှိတော့ဘူး" ပြောရင်းနှင့် တွန်ဂါတာသည် ထိုင်ရာမှ ထလိုက်သည်။

သို့ရာတွင် သူ၏ မျက်လုံးများက တစ်စုံတစ်ခုကို ဖုံးကွယ်လျက်ပင် ရှိနေသည်ဟု ခရိတ်က ထင်မိလေသည်။ ဘာကို ဖုံးကွယ်ထားသည်ဟူ၍ကား ခန့်မှန်း၍မရချေ။ ခရိတ်သည် တစ်စုံတစ်ခုကို သတိရသဖြင့် တွန်ဂါတာအနီးသို့ ချဉ်းကပ်သွားပြီး ခပ်တိုးတိုးပြောလေသည်။

"ကျုပ် ချီဇာရီအရပ်ကိုသွားတော့ လူသုံးယောက်နဲ့တွေ့ခဲ့တယ် သူတို့နာမည်တွေက လွတ်ကောက်၊ ပီကင်းနဲ့ဒေါ်လာဖြစ်တယ်။ သူတို့က ခင်ဗျားကို မှာလိုက်တယ်"

ခရိတ်စကားမဆုံးမီ တွန်ဂါတာသည် အကြီးအကျယ် ဒေါသထွက်လာဟန်ဖြင့် ခပ်ထန်ထန် ပြောလေသည်။

"ခင်ဗျား ဆက်မပြောပါနဲ့။ တိတ်တိတ်နေလိုက်ပါ။ ခင်ဗျားဟာ ကိုယ်နားမလည်တဲ့ ကိစ္စတွေမှာ ဝင်စွက်ဖက်တယ်။ ခင်ဗျားနဲ့လည်း ဘာမှမဆိုင်ဘူး၊ ဒါကြောင့် ခင်ဗျား ဒီတိုင်းပြည်က အမြန်ဆုံး ထွက်သွားရင် ကောင်းမယ် '

ခရိုတ် သည်လည်း စိတ်တိုလာသဖြင့်

' ကောင်းပြီ၊ ကျုပ် ဒီတိုင်းပြည်က ထွက်သွားပါမယ်။ ဒါပေမဲ့ ကျုပ်က ဒီမှာမြေယာဝယ်ဖို့ လျှောက်လွှာတင်တာကို အစိုးရက တရားဝင်ပယ်ချလိုက်မှပဲ သွားနိုင်မယ် ' ဟု ပြန်ပြောလိုက်သည်။

' ဒါဖြင့် ခင်ဗျား အမြန်ဆုံးထွက်သွားစေရမယ်၊ အဲဒါတော့ ကျုပ် အာမခံတယ် '

ဝန်ကြီးတွန်ဂါတာသည် တစ်ချိန်က ခရိုတ်နှင့် အလွန်ခင်မင်ရင်းနှီးခဲ့သူဖြစ်ပါလျက် ယခု တင်းမာစွာဆက်ဆံနေခြင်းမှာ ထူးဆန်းနေပေသည်။ ခရိုတ်အနေဖြင့် ယင်းသို့ ဆက်ဆံလိုက်ခြင်းကို အောင့်သက်သက် ဖြစ်မိလေသည်။ သူ၏ သွားလာလှုပ်ရှားမှုအားလုံးကို တွန်ဂါတာက သိနေခြင်းမှာ ဇင်ဘာဘွေ အစိုးရ ထောက်လှမ်းရေးမှ သူ၏နောက်မှ မျက်ခြည်မပြတ် လိုက်ကြည့်နေခြင်းကြောင့် ဖြစ်ရပေမည်။

ခရိုတ်သည် ဝန်ကြီးထံမှ ပြန်ထွက်လာပြီး သူ၏မော်တော်ကားပေါ်သို့ ပြန်တက်ထိုင်ကာ ချက်ချင်းစက်မနှိုးသေးဘဲ တွန်ဂါတာ၏ ဆက်ဆံလိုက်ပုံကို ပြန်လည်သုံးသပ် ဆင်ခြင်ကြည့်လေသည်။ မိမိ၏ ဇင်ဘာဘွေနိုင်ငံတွင် မြေဝယ်ယူရန် စီစဉ်သည်ကို တွန်ဂါတာကမလိုလားဘဲ ဆန့်ကျင်သည့်စကားတွေချည်းပြောခဲ့သည်။ သူ၏အကြောင်းပြချက်များကလည်းခိုင်လုံခြင်းမရှိ။ ခရိုတ်အနေဖြင့်တွန်ဂါတာကို ကောင်းစွာသိခဲ့လေရာ သူသည် ယခင်က မည်သည့်အခါမှ အကြောင်းပြချက် မခိုင်လုံသောစကားမျိုး ပြောလေ့မရှိချေ။ သူပြောလိုက်ပုံကို အကဲခတ်ကြည့်ရသည်မှာ စိတ်ထဲမှ ယုံကြည်ချက်မရှိဘဲ မပြောမဖြစ်၍ ဖွတ်အတင်း မိမိအား ဆန့်ကျင်သည့် စကားတွေ ပြောနေရသည့်ဟန်မျိုး ဖြစ်နေသည်။

တစ်ဖန် ချီဇာရီဒေသတွင် မိမိနှင့်တွေ့ဆုံခဲ့သော မာတာဘယ်လီ တိုင်းရင်းသားပြောက်ကျား သုံးဦးအကြောင်းစတင်ပြောလိုက်ချိန်တွင် တွန်ဂါတာကစိတ်ဆိုးဟန်ဖြင့် ဆက်မပြောရန်ဟန့်တားလိုက်ခြင်းကလည်း စဉ်းစားဖွယ်ရာဖြစ်နေသည်။ မိမိက လွတ်ကောက်၊ ပီကင်း၊ ဒေါ်လာစသော ပြောက်ကျားတို့၏ နာမည်ဝှက်များကိုပြောလိုက်စဉ် တွန်ဂါတာသည် ထိုနာမည်များကို ကောင်းစွာ သိနေပုံရသော်လည်း စိတ်ဆိုးမာန်ဆိုးနှင့် မိမိအား ဆက်မပြောရန် တားမြစ်ခြင်းမှာ သဘာဝမကျချေ။

ဇင်ဘာဘွေနိုင်ငံနှင့်ပတ်သက်၍ မိမိမသိသေးသော လျှို့ဝှက်ကိစ္စများအတွင်းရေးများ အတော်များများ ရှိနေ၍သာ ဖြစ်ရမည်ဟုလည်း ဆင်ခြင်သုံးသပ်မိသည်။ ခရိုတ်သည် သူ၏ ဗောက်စ်ဝက်ဂွန်မော်တော်ကားဖြင့် မောင်းထွက်လာရာ တည်းခိုသည့် ဟိုတယ်သို့ ရောက်သောအခါ မွန်းတည့်လုပြီ

ဖြစ်သည်။ သူ၏ အခန်းတွင်းသို့ရောက်လျှင် အရက်သောက်ရန် ဂျင်ပုလင်းကို ကိုင်လိုက်ပြီးမှ စိတ်တစ်မျိုး ပြောင်းလာသဖြင့် ဟိုတယ်အောက်ထပ်သို့ တယ်လီဖုန်းဆက်၍ ကော်ဖီမှာယူလိုက်သည်။ သူသည် အမေရိကန်ပြည် နယူးယောက်မြို့တွင် ရှိစဉ်က နေ့လယ်နေ့ခင်းမှာပင် အရက်သောက်သော အလေ့အကျင့်ဖြစ်ခဲ့သည်။ သို့သော် ယခု ဇင်ဘာဘွေနိုင်ငံသို့ ပြန်ရောက်လာချိန်၌ ထိုအလေ့အကျင့်ကို ဖျောက်ပစ်မှသင့်မည်ဟု ဆုံးဖြတ်လျက် အရက်မသောက်ဘဲ နေလိုက်ခြင်းဖြစ်သည်။

ကော်ဖီသောက်ပြီးနောက် စားပွဲတွင်ထိုင်ကာ ကမ္ဘာ့ဘဏ်ဒုဥက္ကဌ ဟင်နရီထံသို့ပေးပို့မည့် သူ၏ စီရင်ခံစာကို ပြန်၍ထပ်မံ ဖြည့်စွက်ရေးသားလေသည်။ ဝန်ကြီးတွန်ဂါတာနှင့် မာတာဘယ်လီ တိုင်းရင်းသား ပြောက်ကျားတော်လှန်ရေးသမားများတို့ ပတ်သက်နေပုံအကြောင်း၊ မိမိက မြေဝယ်ယူရန် စီစဉ်ခြင်းကို တွန်ဂါတာက ဆန့်ကျင်နေကြောင်း စသည်တို့ကိုလည်း အစီရင်ခံစာတွင် ထည့်သွင်းရေးသား လိုက်သည်။

ထို့နောက် သူ ရည်ရွယ်ထားသော ကင်းလင်းမြေယာကွက်ကို ဝယ်ယူပြီး တိုးရစ္စခရီးသွား ဧည့်သည်များအတွက် စခန်းတစ်ခု တည်ဆောက်ရန် အစီအစဉ်များကို ကုန်ကျမည့် ရင်းနှီးမြှုပ်နှံငွေ ပမာဏနှင့်တကွ သူ၏သုံးသပ်ချက်များအကြောင်း အပြည့်အစုံ စာတမ်းတစ်ခုရေးလေသည်။ အထူးသဖြင့် ဇမ်ဘီဇီမြစ်ဘေး၌ တိုးရစ္စခရီးသည်စခန်း ဖန်တီးပါက မည်မျှအောင်မြင်အကျိုးရှိနိုင်ပုံကို အကျယ်တဝင့် ရေးသားလိုက်သည်။

ခရိတ်သည် ယင်းစာတမ်းနှင့်တကွ သူ၏ အစီရင်ခံစာတို့ကို စာအိတ်နှစ်လုံးဖြင့် ခွဲထည့်ပြီးနောက် သူ၏ မော်တော်ကားဖြင့် အမေရိကန်သံရုံးသို့ မောင်းထွက်ခဲ့လေသည်။ သံရုံးမှ ယဉ်ကျေးမှုအရာရှိမှာ အသက်သုံးဆယ်ကျော်အရွယ် လူငယ်တစ်ဦးဖြစ်နေ၍ ခရိတ်သည် အံ့ဩမိလေသည်။

ထိုလူသည် ခရိတ်အား ခရီးဦးကြိုပြုပြီး ရုံးခန်းတစ်ခန်းသို့ ခေါ်သွားလေသည်။ ခရိတ်ကပေးသော စာအိတ် နှစ်အိတ်ကို လက်ခံယူပြီးနောက် ထိုလူက

' ခင်ဗျားနဲ့ပတ်သက်ပြီး ကျွန်တော့်ကို ညွှန်ကြားထားတာ ရှိပါတယ်။ ညနေဘက် ပြင်သစ်သံအမတ်ကြီးနေအိမ်မှာ ဧည့်ခံပွဲတစ်ခုရှိတယ်။ အဲဒီပွဲကို ခင်ဗျားလာလိုက်ရင် လူတွေနဲ့ မိတ်ဆက်ဖို့ရာ အဆင်ပြေလိမ့်မယ်။ ဧည့်ခံပွဲက ညနေခြောက်နာရီလောက်ဖြစ်တယ်။ ခင်ဗျားလာနိုင်ရင် ကောင်းမှာပဲ' ဟု ပြောလေသည်။

ခရိတ်ကလည်း လိုက်လျောသည့်အနေဖြင့် ခေါင်းညိတ်လိုက်သည်။

' ကျုပ်လည်း ညှော့ခံပွဲကို လာချင်ပါတယ် '

' ခင်ဗျားက အခု ဘယ်ဟိုတယ်မှာ တည်းနေပါသလဲ '

' မိုနီမာတာပါ ဟိုတယ်မှာပါ '

' ဒါဖြင့် ကျွန်တော်ကိုယ်တိုင် ခြောက်နာရီမထိုးမီ ခင်ဗျားကို လာခေါ်ပါ့မယ် '

သံရုံးမှ ပြန်ထွက်လာသောအခါ ခရိတ်သည် ယဉ်ကျေးမှုအရာရှိဆိုသူအကြောင်း စဉ်းစားနေမိလေသည်။ ထိုလူသည် သံရုံးတွင် ယဉ်ကျေးမှုအရာရှိ အမည်ခံထားသော်လည်း စင်စစ်အားဖြင့် ထောက်လှမ်းရေး အဖွဲ့အစည်းတစ်ခုခုမှ လျှို့ဝှက်တာဝန်ဖြင့် ဇင်ဘာဘွေနိုင်ငံသို့ လာရောက်နေခြင်း ပေလော။

**အခန်း (၇)**

ညှော့ခံပွဲကျင်းပရာ နေရာကား ဟာရာရေမြို့တော်ရှိ ပြင်သစ်သံအမတ်ကြီး၏ နေအိမ်မြက်ခင်းပြင်တွင် ဖြစ်လေသည်။ အိမ်ဝင်းအတွင်း လွှင့်ထူထားသော သုံးရောင်ခြယ် ပြင်သစ်နိုင်ငံတော်အလံသည် ညနေခင်း၏ လေပြည်လေညင်းအရှိန်ဖြင့် တလူလူလွင့်လျက်ရှိနေပြီး လှပသောပန်းပင်များကလည်း ရှုခင်းကို တင့်တယ်စေ လေသည်။

ညှော့သည်များအား စားသောက်ဖွယ်များ တည်ခင်းညှော့ခံသူ သံရုံးမှ စားပွဲထိုးများသည် အနီရောင် ဦးထုပ်၊ အဖြူရောင်ဝတ်စုံတို့ဖြင့် အထူးသပ်ရပ်စွာ ဝတ်ဆင်ထားကြသည်။ ရှန်ပိန်အရက်ကတော့ နာမည်ကြီး ဘိုလင်ဂျာ အမျိုးအစား ရှန်ပိန်အကောင်းစားဖြစ်သည်။

မြက်ခင်းပြင်တစ်နေရာတွင်ကား ရဲတပ်ဖွဲ့ တီးဝိုင်းက သာယာငြိမ့်ညောင်းသော တေးဂီတသံများဖြင့် တီးမှုတ် ဖျော်ဖြေလျက်ရှိသည်။ ခရိတ်သည် ရှုခင်းကိုကြည့်ရင်း တစ်ချိန်က (မျက်နှာဖြူအစိုးရ လက်ထက်) ရိုဒီးရှားနိုင်ငံ ဘုရင်ခံချုပ်၏ ညှော့ခံပွဲနှင့်မခြားပါတကားဟု စဉ်းစားမိလေသည်။

လာရောက်သော ညှော့သည်များအနက် အများဆုံးမှာ တရုတ်နှင့် ကိုရီးယား လူမျိုးတို့ဖြစ်ကြလေသည်။ သူတို့သည် ဇင်ဘာဘွေအစိုးရက အထူးအလေးပေးခြင်းခံရသူ အထူးညှော့သည်တော်များ ဖြစ်နေကြပေသည်။ အရေးပေးရလောက်အောင်လည်း တရုတ်နှင့်ကိုရီးယားတို့က ဇင်ဘာဘွေအစိုးရ

အား အများဆုံး အကူအညီ ပေးနေကြသူများဖြစ်ကြသည်။ အထူးသဖြင့် တော်လှန်ရေးစစ်ပွဲအတွင်းက လက်ရှိအာဇာရ ရှိနာတိုင်းရင်းသားတို့၏ တပ်များကိုထိရောက်စွာ ကူညီအားပေးခဲ့ကြလေသည်။ ထိုအချိန်က ဆိုဗီယက်ရုရှတို့ကမူမာတာဘယ်လီတိုင်းရင်းသားလူမျိုးအုပ်စုဘက်ကိုသာ အားပေးခြင်းကြောင့် ခြေလှမ်းမှားသွားသလို ဖြစ်ခဲ့လေသည်။ ယခု လွတ်လပ်သော ဖင်ဘာဘွေနိုင်ငံ တွင် ရှိနာလူမျိုးအုပ်စုက အင်အားအများစုဖြင့် အစိုးရဖွဲ့လိုက်သော ဝန်ကြီးချုပ်မူဂါဘီအစိုးရသည် ဆိုဗီယက်တို့အား လုံးဝမျက်နှာသာ မပေးတော့ချေ။

ညှော်ခံပွဲသို့ လာရောက်သူများသည် ပြုံးကာရယ်ကာဖြင့် အချင်းချင်း စကားပြောနေကြလေသည်။ ရုရှအမျိုးသားတို့ကမူ အခြားလူများနှင့် မရောနှောဘဲ သူတို့အုပ်စုလိုက် တစ်နေရာတွင် စုံရုံးနေကြသည်။ သူတို့ထဲတွင် ယူနီဖောင်းဝတ်အချို့ကို ခရိတ်က သတိပြုမိလေသည်။ သို့သော် ရာထူးအဆင့်အားဖြင့် အရာရှိငယ်များသာဖြစ်ပြီး ကာနယ်(ဗိုလ်မှူးကြီး)အဆင့်ရှိသူဆို၍ တစ်ယောက်မှမပါချေ။ အမေရိကန်သံရုံးမှ အရာရှိမော်ဂင်သည် ခရိတ်ကိုအိမ်ရှင်ပြင်သစ်သံအမတ်ကြီး ဇနီးမောင်နှံနှင့် မိတ်ဆက်ပေးလေသည်။ ဇနီးဖြစ်သူမှာ ခင်ပွန်းသံအမတ်ကြီးထက် အသက်သုံးဆယ်ခန့် ငယ်လိမ့်မည်ဟု ခန့်မှန်းရပေသည်။ သူမသည် ပြင်သစ်ပြည် ပဲရစ်မြို့တော်မှ နောက်ဆုံးပေါ် ဖက်ရှင်ဝတ်စုံ ဖြစ်ဟန်တူသော အလွန်လှပသည့် ဝတ်စုံတစ်စုံ ဝယ်ဆင်ထားလေသည်။

မိတ်ဆက်ပေးချိန်တွင် ခရိတ်သည် ဥရောပလူမျိုးတို့၏ ယဉ်ကျေးမှုထုံးတမ်းစဉ်လာအရ ဦးညွှတ်၍ သံအမတ် ကတော်၏ လက်တစ်ဖက်ကို ငုံ့၍ နမ်းရှုပ်ရင်း -

' တွေ့ရတာ အထူးဝမ်းမြောက်ဂုဏ်ယူပါတယ်ခင်ဗျာ ' ဟု ပြင်သစ်ဘာသာဖြင့် နှုတ်ဆက်လိုက်ရာ သံအမတ်ကတော်လည်း သဘောကျသွားဟန်ဖြင့် ခရိတ်အား အကဲခတ်သလို သေချာစွာကြည့်လိုက်ပြီး အခြား ဧည့်သည်တစ်ဦးထံသို့ ထွက်သွားလေသည်။

သံရုံးမှ ယဉ်ကျေးမှုအရာရှိ မော်ဂင်သည် ခရိတ်အနားသို့ကပ်၍ ပြုံးဖြဲဖြဲနှင့် ...

' မစ္စတာဟင်နရီက ပြောတယ်။ ခင်ဗျားဟာ အမျိုးသမီးတွေ ကျလောက်အောင် ဆွဲဆောင်နိုင်တဲ့ ညှို့ဓာတ် ရှိတယ်လို့ဆိုတယ်။ ဒီမှာတော့ သံတမန်ရေးရာ ပြဿနာတော့မပေါ်မှ ကောင်းမယ် ထင်တယ်၊ ဟဲ ... ဟဲ ' ဟု ရယ်စရာလုပ်၍ ပြောလိုက်သည်။

'ကောင်းပါပြီဗျာ၊ လောလောဆယ် ကျုပ်ကရုန်ပိန်အရက် သောက်တာကလွဲလို့ဘာမှ မလုပ်ပါဘူးဗျ' ခရိတ်ကလည်း ရယ်ကာမောကာဖြင့် အလိုက်သင့်ပြန်ပြောလိုက်သည်။ အာဖရိကတိုက် အလယ်ပိုင်း

ရှိ သမ္မတနိုင်ငံများမှ အမျိုးသမီးတို့သည် ညေ့စ်ခံပွဲသို့ တိုင်းရင်းသားဝတ်စုံ များဝတ်၍လာကြရာ သူတို့၏ဝတ်စုံများကလည်း အရောင်အသွေးစုံပြီး လှပတင့်တယ် နေလေသည်။ ခရိတ် သည် ညေ့စ်ခံပွဲရှုခင်းကိုကြည့်ရင်း သူ၏ဘိုးအေကြီး ဘာဂူကို သတိရမိလေသည်။

' ဘိုးဘိုး အခု မရှိတော့တာဘဲ တစ်မျိုးကောင်းပါတယ်။ ရှိနေရင် ဒီလိုရှုခင်း တွေကို မြင်နေရဦးမယ် '

ဤသို့လည်း စိတ်ထဲမှ ဘိုးအေကြီးအား တိုင်တည်လိုက်မိသည်။

ထို့နောက် မော်ဂင်က ...

' ခင်ဗျားက ဗြိတိသျှလူမျိုးတွေနဲ့ ရင်းနှီးမှ ကောင်းမယ် ထင်တယ်' ဟု ဆိုကာ ဗြိတိသျှသံအမတ်ကြီးကတော်နှင့်မိတ်ဆက်ပေးပြန်သည်။ အမျိုးသမီးမှာ စိတ်ဓာတ်ပြင်းထန် ခိုင်မာပုံရပြီး ဆံပင်ကိုဝန်ကြီးချုပ်မစ္စက်သက်ချာ၏ ဆံပင်ပုံမျိုးဆန်ဆန် ဆင်ယင်ထုံးဖွဲ့ထားလေသည်။

သံအမတ်ကတော်သည် ခရိတ်၏ စာအုပ်ကို ဖတ်ဖူးသူ ဖြစ်၍ ...

' ရှင့်စာအုပ်ထဲက အကြမ်းဖက်မှု အခန်းတွေကများလွန်းလို့ ကျွန်မတော့တယ်ပြီး သဘောမကျမိဘူးရှင့်၊ အဲဒီအခန်းမျိုးတွေ စာအုပ်ထဲထည့်ရေးဖို့ တကယ်ပဲ လိုအပ်လို့လား 'ဟု ဝေဖန်သလို ပြောလိုက်သည်။
' ဒါကတော့ ဒီလို ရှိပါတယ်။ အာဖရိကတိုက်ကြီးဟာ အကြမ်းဖက်မှုတွေ အမြဲလိုလို ရှိတတ်တဲ့ဒေသဖြစ်ပါတယ်။ စာရေးဆရာတစ်ယောက်အနေနဲ့ ဒီအချက်ကို ဖုံးကွယ်ပြီး ဖျောက်ထားလိုက်ရင် စာရေးဆရာကောင်း ဘယ်ပီသတော့မှလည်း ခင်ဗျာ '

ခရိတ်က ပြန်၍ ရှင်းပြလိုက်သည်။

ထိုအချိန်၌ အမျိုးသမီးတစ်ဦးသည် ခရိတ်အား သေချာစွာ ကြည့်နေလေသည်။ ဝတ်ထားပုံကတော့ အပေါ်ပိုင်း၌တီရှပ်တစ်ထည်ဝတ်ထားပြီး ချည်ထည်စကတ်ဖြင့်ရိုးရိုးကလေးပင်ဖြစ်သည်။ မျက်နှာတွင်လည်း မိတ်ကပ်အလှပြုပြင် ခြယ်သထားခြင်းအလျှင်းမရှိချေ။ ပခုံးတစ်ဖက်တွင်မူ နီကွန် အမျိုးအစားကင်မရာတစ်လုံး လွယ်ထားလေသည်။ သူမသည် ခရိတ်အား အထူးစိတ်ဝင်စားဟန်ဖြင့် စိုက်ကြည့်နေလေသည်။ သို့ရာတွင် ခရိတ်က သူမကိုမြင်၍ ပြန်ကြည့်လိုက်သောအခါ၌မူ အမျိုးသမီးသည် လျင်မြန်စွာ မျက်နှာလွှဲလိုက်ပြီး သူမ၏ဘေးနားရှိ လူတစ်ယောက်ဘက်သို့ လှည့်သွားလေသည်။ ထိုလူမှာ ဇင်ဘာဘွေ စစ်တပ် ယူနီဖောင်းဝတ်ထားသူ တိုင်းရင်းသား လူမည်းတစ်ဦးဖြစ်သည်။ ရှိုနာ

တိုင်းရင်းသား ဖြစ်ကြောင်းလည်း ထင်ရှားသည်။ သူ၏ပခုံးမှာ ရာထူးတံဆိပ်ကိုကြည့်ရှုခြင်းအားဖြင့် ဗိုလ်မှူးချုပ်အဆင့်ရှိကြောင်း သိသာပေသည်။ အင်္ဂါရုပ်အားဖြင့် ထိုလူသည် အမေရိကန်မှ ကပွလီ ရုပ်ရှင်မင်းသားဟယ်ရီဘယ်လာဖန်တီကဲ့သို့ ခံ့ညားချောမွေ့သူဖြစ်လေသည်။

ခရိုတ်က ထိုလူအား စိတ်ဝင်စားဟန်ဖြင့် ကြည့်နေသည်ကို မော်ဂင်က သတိပြုမိသဖြင့် ...

'ကဲ လာဗျာ၊ ခင်ဗျားနဲ့ မိတ်ဆက်ပေးပါမယ်'ဟုဆိုကာ ခရိုတ်အား ထိုလူအနီးသို့ ခေါ်သွားလေသည်။ ' ဗိုလ်ချုပ် ဖွန်ဂါဘီရာခင်ဗျား မိတ်ဆက်ပေးပါရစေ။ ဟောဒါက နာမည်ကျော် စာရေးဆရာ မစ္စတာ ခရိုတ် ဖြစ်ပါတယ် '

မော်ဂင်က မိတ်ဆက်ပေးလိုက်လျှင် ထိုလူကလည်း သွက်လက်စွာပင် ...

' ဟဲလို... မစ္စတာခရိုတ် တွေ့ရတာဝမ်းသာပါတယ်။ ကျုပ်ကတော့ ခင်ဗျားရဲ့ စာအုပ်တွေကို မဖတ်ဖူး သေးတဲ့အတွက် ဝမ်းနည်းပါတယ်။ ကျုပ်မှာက အလုပ်တွေများလွန်းလို့ ဖတ်ဖို့အချိန်မရလို့ပါ' ဟု အင်္ဂလိပ်ဘာသာဖြင့် ကျွမ်းကျင်စွာ ပြန်ပြောလေသည်။

တစ်ဖန် မော်ဂင်က ခရိုတ်ဘက်သို့လှည့်၍ ...

' ဗိုလ်ချုပ် ဖွန်ဂါဘီရာက ပြည်ထဲရေးနဲ့ လုံခြုံရေးဌာနဝန်ကြီးဖြစ်ပါတယ် ' ဟု ရှင်းပြလေသည်။

ခရိုတ်သည် ထိုလူနှင့် လက်ဆွဲနှုတ်ဆက်ရင်း ...

' ဗိုလ်ချုပ် တာဝန်ယူထားတဲ့ ဌာနကတော့ အလွန်ခက်ခဲတဲ့ ဌာနတစ်ခုပါပဲ 'ဟု ပြောလိုက်ပြီး ထိုလူ၏ မျက်နှာကို အကဲခတ်ကြည့်လိုက်သည်။

မျက်လုံးများက အထူးပင် တောက်ပြောင်စူးရှပြီး စိတ်ဓာတ်ပြင်းထန် ထက်မြက်သူတစ်ယောက်၏ အသွင်ဆောင်နေရာ ခရိုတ်သည် ထိုလူအားမြင်မြင်ချင်း သဘောကျသွားမိလေသည်။ စိတ်ဓာတ် ပြင်းထန်၍ လိုအပ်လာလျှင် ရက်စက်မည့်သူတစ်ယောက်ဖြစ်ကြောင်း ထင်ရှားသော်လည်း ခရိုတ် သည် ထိုလူနှင့် ဆက်ဆံ၍ အဆင်ပြေနိုင်လိမ့်မည်ဟု ယူဆမိလေသည်။

' အလုပ်တာဝန်က ခက်ခဲတယ်လို့ဆိုရပေမယ့် လောကမှာ ဘာအလုပ်မဆို မလွယ်ကူလှပါဘူး။ ခင်ဗျားတို့လို စာအုပ်ရေးတဲ့ အလုပ်ကလည်း မလွယ်လှပါဘူး။ မဟုတ်ဘူးလား မစ္စတာခရိုတ် ' ဗိုလ်ချုပ် ဖွန်ဂါဘီရာကပြောလိုက်ရာ ခရိုတ်သည် ထိုလူအား ပို၍ပင်သဘောကျမိသွားလေသည်။

သံရုံးအရာရှိ မော်ဂင်အနီးရှိ အမျိုးသမီးကို ညွှန်ပြရင်း -

' ဟောဒါ ကတော့ မစ္စဆယ်လီ ဖြစ်ပါတယ် ' ဟု မိတ်ဆက်ပေးပြန်သည်။ သူမသည် စောစောက ခရိတ်အား လှမ်းကြည့်နေသူပင်ဖြစ်ပြီး ခရိတ်ကလည်း စိတ်ဝင်စား၍ ပြန်ကြည့်ခဲ့သည်။ သူသည် ဆယ်လီနှင့်နောက်ဆုံးတွေ့ဆုံခဲ့ရသည်မှာ တစ်လခန့် ရှိပြီဖြစ်သော်လည်း သူမနှင့် တွေ့ဆုံခဲ့ရပုံကို ကောင်းစွာ မှတ်မိနေသည်။

' ကျွန်မနဲ့ မစ္စတာခရိတ်တို့က တွေ့ဆုံခဲ့ပြီးပါပြီရှင့်။ ဒါပေမဲ့ သူက ကျွန်မကို မှတ်မိပုံမလား မပြောတတ် ဘူး '

ပြောပြောဆိုဆို ဆယ်လီသည် ခရိတ်၏လက်ကို ရင်းနှီးစွာ ကိုင်လိုက်ပြီးမှ မော်ဂင်ဘက်သို့လှည့်၍ ... ' ကျွန်မ အမေရိကန်က ပြန်ရောက်ပြီးတော့ ရှင်နဲ့မတွေ့ရသေးတာဝမ်းနည်းပါတယ်။ ဘာပဲဖြစ်ဖြစ် ဓာတ်ပုံပြပွဲ စီစဉ်ပေးတာကိုတော့ ကျေးဇူးတင်လို့ မဆုံးပါဘူး' ဟုပြောလိုက်သည်။

' ကျေးဇူးတင်ဖို့ မလိုပါဘူးဗျာ။ ဒါထက် ရှေ့အပတ်ထဲ တစ်ရက်ရက် နေ့လယ်စာအတူစားကြရအောင် နော် ' မော်ဂင်ကပြောပြီး ခရိတ်ဘက်သို့လှည့်၍ ရှင်းပြလေသည်။

' ဒီလိုပါခင်ဗျ။ ကျွန်တော်တို့က ဆယ်လီရဲ့ ဓာတ်ပုံတွေကို ပြပွဲတစ်ခုဖြစ်အောင်စုပြီး အာဖရိက တိုက်မှာရှိတဲ့ အမေရိကန်ကောင်စစ်ဝန်ရုံးတွေကို လှည့်လည်ပြသခဲ့ပါတယ်။ ဓာတ်ပုံတွေကတော့ အလွန် ကောင်းလှပါတယ်။ ဆယ်လီရဲ့ ဓာတ်ပုံလက်ရာဘယ်လောက် အဆင့်အတန်းမြင့်တယ်ဆို တာ ခင်ဗျားကို ပြရဦးမယ် '

ဤတွင် ဆယ်လီက ပြုံးလိုက်သည်။

' မစ္စတာခရိတ်က ကျွန်မရဲ့ ဓာတ်ပုံလက်ရာတွေကို မြင်ဖူးခဲ့ပြီးပါပြီရှင့်။ ဒါပေမဲ့ သူက ကျွန်မရဲ့ ကြိုးပမ်းမှုကို တယ်ပြီး စိတ်ဝင်စားပုံ မရပါဘူး' ခရိတ်က ထိုစကားကို ကန့်ကွက်မည်ပြုသော်လည်း ဆယ်လီက ပြောခွင့်မပေးသလို မော်ဂင်အား ဆက်ပြောပြန်လေသည်။

' ဒီမယ်၊ ပိုလ်ချုပ် ဖွန်ဂါဘီရာက ကျွန်မနဲ့အတူ ပြန်လည်ထူထောင်ရေးစခန်းတစ်ခုကို လိုက်ပြမယ်လို့ ကတိပေးထားပါတယ်။ ပြီးတော့ ကျွန်မကိုလည်း ဓာတ်ပုံရိုက်ကူးဖို့ ခွင့်ပြုမယ်တဲ့ရှင့် '

သူမ၏ အမူအရာမှာ ခရိတ်အား စကားပြောခွင့် မရအောင် တမင်သက်သက် လုပ်နေသည်နှင့် တူနေသည်။ သူ့အား ဂရုမစိုက်သလိုပုံမျိုးလည်း ဖြစ်နေသည်။ ခရိတ်သည် ရှက်အမ်းအမ်းဖြစ်နေရာ ကံအားလျော်စွာ ဗိုလ်ချုပ် ဖွန်ဂါမီရာက သူ၏လက်မောင်းကို အသာဆွဲ၍ ခပ်လှမ်းလှမ်း တစ်နေရာသို့ ခေါ်သွားပြီး စကားပြောလေသည်။

' မစ္စတာခရိတ်က လူတကာနဲ့ ရန်သူဖြစ်အောင် လုပ်တတ်တယ် ထင်တယ် '

ဗိုလ်ချုပ်သည် ဆယ်လီက ခရိတ်ကို သဘောမကျသည့်ဟန်ဖြင့် ဆက်ဆံပုံကို အကဲခတ်မိသဖြင့် ပြောလိုက်ခြင်းဖြစ်ဟန်တူသဖြင့် ခရိတ်က ...

' နယူးယောက်မြို့ မှာတုန်းက သူနဲ့ကျုပ်တို့ တစ်ယောက်ကို တစ်ယောက် အထင်အမြင် လွဲခဲ့ဖူးလို့ပါ' ဟု ရှင်းပြလိုက်သည်။

' ကျုပ်က အမျိုးသမီး ဓာတ်ပုံဆရာအကြောင်း ပြောနေတာ မဟုတ်ပါဘူး။ ဒီနေ့မနက် ခင်ဗျားက ကျုပ်တို့ အစိုးရအဖွဲ့ဝင် ဝန်ကြီးတစ်ဦးနဲ့တွေ့ဆုံခဲ့တာကို ပြောတာပါ။ ခင်ဗျား ဝန်ကြီးနဲ့ တွေ့ဆုံခဲ့ရတာ အဆင်မပြေဘူး မဟုတ်လား '

' အင်း... ဟုတ်ကဲ့၊ အဆင်မပြေခဲ့ဘူး ဆိုပါတော့ '

ခရိတ်က ဝန်ခံလိုက်သည်။

' ဟို ဝန်ကြီးက ခင်ဗျားရဲ့ဆန္ဒကို မလိုက်လျောတာဟာ ဝမ်းနည်းစရာပါပဲ။ တကယ်တော့ ကျုပ်တို့ နိုင်ငံဟာ စားသောက်ကုန် မဖူလုံတဲ့အတွက် လူဖြူလူမည်း ခွဲခြားရေးဝါဒ လက်ကိုင်ထားတဲ့ တောင်အာဖရိကကို အားကိုးနေရတယ်။ အဲဒီလို သူတစ်ပါးကို အားမကိုးရဘဲ ကိုယ့်နိုင်ငံတွင်းမှာ စားနပ်ရိက္ခာဖူံအောင် လုပ်မယ်ဆိုရင် ငွေပင်ငွေရင်း တတ်နိုင်တဲ့ စိုက်ပျိုးမွေးမြူရေး လုပ်ငန်းရှင်တွေ လိုအပ်တာ အမှန်ပဲ။ ဒါမှလည်း ကျုပ်တို့ ဇင်ဘာဘွေနိုင်ငံမှာ အလဟဿဖြစ်နေတဲ့ မြေယာတွေကို အသုံးချနိုင်မှာဖြစ်တယ် '

' ဟုတ်ကဲ့၊ ဗိုလ်ချုပ်ကတော့ တကယ်အမြင်ကျယ်ပါပေတယ် '

' ဒီလိုပြောတာ ကျေးဇူးတင်ပါတယ် မစ္စတာခရိတ်။ ဒီတော့ ခင်ဗျား ကျုပ်ပြောသလိုလုပ်ပါ။ ခင်ဗျား အနေနဲ့ မြေယာဝယ်ယူဖို့ အစီအစဉ်တွေပြီးရင် ကျုပ်ဆီကိုလာတွေ့ပါ။ လယ်ယာစိုက်ပျိုးရေးဝန်ကြီး က ကျုပ်ရဲ့ ယောက်ဖတော်ပါတယ် '

ဗိုလ်ချုပ် ဖွန်ဂါဘီရာသည် ပြုံးလိုက်ပြီးမှ ဆက်ပြောပြန်သည်။

' ခင်ဗျား စောစောကကြားလိုက်တဲ့ ကျုပ်က မစ္စဆယ်လီနဲ့အတူ ပြန်လည်ထူထောင်ရေးတစ်ခုကို သွားဖို့ရှိပါတယ်။ ဒီလိုနေရာမျိုးတွေက သာမန်လူတွေ ဝင်ကြည့်ခွင့်မရှိပါဘူး။ နိုင်ငံတကာက သတင်းစာဆရာတွေက ဒီစခန်းတွေနဲ့ပတ်သက်ပြီးအမျိုးမျိုး လုပ်ကြံရေးသားနေကြပါတယ်။ ခင်ဗျားကတော့ နာမည်ကျော် စာရေးဆရာ တစ်ဦးအနေနဲ့ တကယ်လက်တွေ့မြင်ရရင် အမှန်ကို ကမ္ဘာကသိအောင် ရေးသားနိုင်လိမ့်မယ်လို့ မျှော်လင့်ပါတယ်။ ဒါကြောင့် ကျုပ်နဲ့ မစ္စဆယ်လီတို့ စခန်းကို သွားကြည့်တဲ့အခါ ခင်ဗျားကိုပါ လိုက်စေချင်ပါတယ်။ သူနဲ့ခင်ဗျား အမေရိကန်မှာ အထင်အမြင်လွဲခဲ့ကြတယ်ဆိုတာကိုလည်း ပြေလည်အောင် ရှင်းခွင့်ရပါလိမ့်မယ်။ မဟုတ်ဘူးလား မစ္စတာခရိတ် '

**အခန်း (၈)**

ခရိတ်သည် သူ၏ ဖောက်ဝက်ဂွန်ကားဖြင့် ဆာရွန်လေတပ်စခန်းသို့ မောင်းသွားရာ သူရောက်သွားချိန်၌ မှောင်မည်းလျက်ပင်ရှိသေးသဖြင့် ရာသီဥတုကလည်း အတော်အေးလျက်ရှိလေသည်။ ဝန်ကြီးဗိုလ်ချုပ်ဖွန်ဂါဘီရာက ခရိတ်ထက်ပင်စောစောရောက်နေပြီး ဇင်ဘာဘွေလေတပ်မှအရာခံဗိုလ် နှစ်ဦးနှင့် စကားပြောနေလေသည်။ သူသည်ခရိတ်ကိုမြင်သည်နှင့် ထိုလူနှစ်ယောက်အား ထွက်သွားခိုင်းပြီးနောက် ခရိတ်ရှိရာသို့လျှောက်လာလေသည်။

ဖွန်ဂါဘီရာသည် စစ်မြေပြင်သုံး ယူနီဖောင်းဝတ်စုံ ဝတ်ထားပြီး အနီရောင် ဦးထုပ်ပျော့ ဆောင်းထားလေသည်။ ဦးထုပ်တွင် တပ်ဆင်ထားသော ကျားသစ်ဦးခေါင်းတံဆိပ်မှာ ဇင်ဘာဘွေစစ်တပ်၌ နာမည်ကြီး တတိယတပ်မဟာအမှတ်တံဆိပ်ပင်ဖြစ်သည်။ လက်နက်အနေဖြင့်ကား ခါးတွင်ချိတ်ထားသော ပစ္စတိုသေနတ်အပြင် လက်ကိုင်တုတ်တိုတစ်ချောင်းသာလျှင် ကိုင်ထားလေသည်။

' ဟဲလို ဖွန်ဂါဘီရာသည် ခရိတ်ကိုင်ထားသော အဝတ်အစား ထည့်သည့်လက်ဆွဲအိတ်ကို လှမ်းကြည့် ပြီး' နောက်ပြီး ခရီးသွားတဲ့အခါ ပစ္စည်းများများ မယူဘဲ ပေါ့ပေါ့ပါးပါး သွားတတ်တဲ့ လူမျိုးမှ ကြိုက်တယ် ' ဟု ဆက်ပြော လေသည်။

ထို့နောက် နှစ်ယောက်သား လေယာဉ်များရှိရာသို့ အတူလျှောက်သွားကြလေသည်။ ခရိတ်သည် လှမ်းကြည့်လိုက်ရာ ကင်ဘာရာ အမျိုးအစား ဗြိတိသျှ ဗုံးကြဲလေယာဉ်ဟောင်းကြီးနှစ်စင်း ဆိုက်ထားသည်ကို မြင်ရလေသည်။

ထိုလေယာဉ်များမှာ တစ်ချိန်က(မျက်နှာဖြူအစိုးရလက်ထက်က) ဇင်ဘာဘွေတိုင်းရင်းသားတော်လှန်ရေး ပြောက်ကျားစခန်းများအား တရကြမ်း ဗုံးကြဲတိုက်ခိုက်ခဲ့သော လေယာဉ်များဖြစ်လင့်ကစား ယခုတော့မူ လွတ်လပ်သော ဇင်ဘာဘွေနိုင်ငံလေတပ်၏ အဓိက အားကိုးနေရသော လေယာဉ်များဖြစ်နေပေပြီ။ ယင်း ဗုံးကြဲလေယာဉ်နှစ်စင်း၏ ဘေးဘက် မလှမ်းမကမ်းတွင်ကား စက်ဆနာ အမျိုးအစား ငွေရောင်နှင့်အပြာရောင်ဆေးသုတ်ထားသည့် လှပသော လေယာဉ်ငယ်အသစ်တစ်စင်း ရှိလေသည်။ ဝန်ကြီး ဖွန်ဂါဘီရာသည် ထိုစက်ဆနာ လေယာဉ်ငယ်ဆီသို့ ဆက်လျှောက်သွားရာ ခရိတ်လည်းလိုက် လျှောက်သွားလေသည်။ သူတို့ ချဉ်းကပ်သွားချိန်မှာပင် ဓာတ်ပုံဆရာ အမျိုးသမီး ဆယ်လီသည် လေယာဉ်ကိုယ်ထည်၏ တစ်ဖက်မှထွက်ပေါ်လာလေသည်။ သူမသည် လေယာဉ်ကို သေချာစွာ စစ်ဆေးကြည့်ရှုနေပုံကို ထောက်ခြင်းအားဖြင့် ဆယ်လီပင်လျှင် ထိုလေယာဉ်ကို ပိုင်းလော့(လေယာဉ်မှူး)အဖြစ် မောင်းနှင်လိမ့်မည်ဟု ခရိတ်က တွက်မိလေသည်။

မူလကတော့ ဝန်ကြီး ဗိုလ်ချုပ်ဖွန်ဂါဘီရာ စီးနင်းလိုက်ပါမည့် လေယာဉ်ကို ဇင်ဘာဘွေ လေတပ်မှ လေယာဉ်မှူး တစ်ဦး မောင်းနှင်လိမ့်မည်ဟု ထင်ခဲ့မိသည်။ ဆယ်လီသည် လေယာဉ်မှူးဝတ်စုံဝတ်ထားပြီး ဦးခေါင်းမှဆံပင်များကို ပိုးပဝါတစ်ထည်ဖြင့် စည်းထားလေသည်။ သူမသည် ကျွမ်းကျင်သော လေယာဉ်မှူးတစ်ယောက်ကဲ့သို့ လေယာဉ်၏စက်ခလုတ်များနှင့် ဓာတ်ဆီအနည်းအများပမာဏကိုပါ သေချာစွာ စစ်ဆေးကြည့်ရှုပြီးနောက် လေယာဉ်ပေါ်မှ ပြန်ဆင်းလာကာ နှုတ်ဆက်လေသည်။

' ဂွတ်မောနင်း ဗိုလ်ချုပ်၊ လေယာဉ်စီးတဲ့အခါ ဗိုလ်ချုပ်က လက်ယာဘက်က ထိုင်ခုံမှာ စီးချင်ပါသလား '

' အဲဒီနေရာ ကို မစ္စတာခရိတ်ကို ပေးလိုက်ရင် ကောင်းမယ်ထင်တယ်။ ဒါမှ သူက ရှုခင်းတွေကို ကောင်းကောင်းမြင်ရမယ်။ ကျုပ်ကဒီရှုခင်းတွေကို ခဏခဏ မြင်နေရလို့ရိုးနေပါပြီ '

ဗိုလ်ချုပ်ဖွန်ဂါဘီရာ က ပြောလိုက်လျှင် ဆယ်လီသည် ခေါင်းညိတ်လျက် ...

' ဒါဖြင့် ဗိုလ်ချုပ်သဘောအတိုင်းပါဘဲ' ဟု ပြောကာ ခရိုတ်ဘက်သို့ တစ်ချက်လှမ်းကြည့်လိုက်ပြီး ဖြတ်လတ် သွက်လက်စွာ လေယာဉ်မောင်းသည့်နေရာကို တက်ထိုင်လိုက်သည်။ ခရိုတ် နှင့် ဖွန်ဂါဘီရာတို့သည် လေယာဉ်ပေါ်သို့ တက်လိုက်ကြသည်။

ဆယ်လီသည် လေဆိပ်မျှော်စင်သို့ ရေဒီယိုဖြင့် ဆက်သွယ်၍ ထွက်ခွာပျံသန်းခွင့်ရယူပြီးနောက် လေယာဉ်ကို လေယာဉ်ပြေးလမ်းကြောင်းရှိရာသို့ စတင်မောင်းထွက်လေသည်။ သူမသည် လေယာဉ်တွင်းရှိ စက်ခလုတ်ယန္တရားများကို အထူးကျွမ်းကျင်စွာ ကိုင်တွယ်တတ်ပုံကို မြင်ရတော့မှ ခရိုတ်သည် မူလက အမျိုးသမီး လေယာဉ်မှူးများအပေါ် အထင်သေးခဲ့မိသည့် ယူဆချက် မှားယွင်းကြောင်း သိလာလေသည်။ ဆယ်လီကား လေယာဉ်မောင်း အထူးကျွမ်းကျင်သူ လေယာဉ်မှူး တစ်ဦးဖြစ်ကြောင်း ယုံမှားဖွယ်မရှိချေ။

လေယာဉ်ငယ်သည် ကောင်းကင်သို့ပျံတက်မိသောအခါ ဆယ်လီက အနောက်ဘက်ဆီသို့ လေယာဉ် ထိန်းခလုတ်ကို ဦးတည်ကာ အော်တိုပိုင်းလော့ခေါ် အလိုအလျောက်ထိန်းမောင်းနှင်သည့် ကိရိယာ ခလုတ်ကို ဖွင့်လိုက်သည်။ ဤနည်းအားဖြင့် လေယာဉ်မှူးကထိန်းပေးရန် မလိုတော့ဘဲ အော်တို ပိုင်းလော့က ဆက်လက် ထိန်းမောင်းသွားမည်ဖြစ်သည်။

' လေယာဉ် က အလွန်ကောင်းတာပဲ၊ ဒါဟာ ကိုယ်ပိုင်လေယာဉ်လား '

ခရိုတ်က စကားစသည့်အနေဖြင့် ပြောလိုက်ရာ ဆယ်လီသည် ရှေ့တည့်တည့်သို့ကြည့်ရင်း -

' ကဘ္ဘာတောရိုင်း တိရစ္ဆာန်များ ထိန်းသိမ်းစောင့်ရှောက်ရေးအဖွဲ့ပိုင် လေယာဉ်ဖြစ်ပါသည်။ အခုတော့ ကျွန်မ အသုံးပြုဖို့အတွက် ပေးထားပါတယ် ' ဟု ပြန်ပြောလေသည်။

' ဒီလေယာဉ်က တစ်နာရီ ဘယ်နမိုင်လောက် ပျံသန်းနိုင်သလဲ ' ' ရှင့်ရှေ့တည့်တည့်မှာ မိုင်နှုန်းကို ညွှန်ပြခဲ့တဲ့ ဇယားဒိုင်ခွက်ရှိပါတယ် '

ဆယ်လီက ဘုကျကျ ပြန်ပြောလိုက်သည်။

ခရိုတ်သည် ရှက်အမ်းအမ်းဖြစ်သွားလျက် ဘာဆက်ပြောရမှန်းမသိအောင်ဖြစ်နေစဉ် ဗိုလ်ချုပ် ဖွန်ဂါ ဘီရာက နောက်ထိုင်ခုံမှ ရှေ့သို့တိုးလျက် ခရိုတ်အား ရှုခင်းကိုညွှန်ပြရင်း ရှင်းပြလေသည်။

' ဟောဟိုက ရေကာတာကြီး မြင်တယ်မဟုတ်လား။ ဒီဒေသမှာ ခရိုမီယံ ပလက်တီနမ်စတဲ့ အဖိုးတန် သတ္တု တွေ ထွက်တယ် '

ခရိတ်လည်း အောက်သို့ ကြည့်လိုက်ရာ ရေကာတာကြီးအပြင် ဘေးပတ်ဝန်းကျင်၌ လယ်ယာစိုက်ပျိုး ရေးမြေကွက်များနှင့် တောတောင်ရှုခင်းများကို မြင်ရလေသည်။

' ကျုပ်တို့က သွန်ဂိုလာ တောင်တန်းဘေးနားက လေယာဉ်ကွင်းငယ်တစ်ခုရှိတယ်။ သွားလာရေး ခက်ခဲတဲ့ နေရာတစ်ခုပါပဲ။ အဲဒီလေယာဉ်ကွင်းကမှ မော်တော်ကားနဲ့ ထူထောင်ရေးစခန်းကို ဆက်သွား ကြမယ် '

ဗိုလ်ချုပ်ဖွန်ဂါဘီရာ၏ စကားအဆုံးတွင် ဆယ်လီက

' ဗိုလ်ချုပ်၊ ကျွန်မ လေယာဉ်ကို အခုထက်ပိုပြီး ခပ်နိမ့်နိမ့် ပျံချင်ပါတယ် ဖြစ်မလား ' ဟု မေးလိုက်ရာ ဖွန်ဂါဘီရာက ပြုံးလိုက်ပြီး ခရိတ်ဘက်သို့ လှည့်၍

' သူက ဘာကြောင့် လေယာဉ်နိမ့်နိမ့် ပျံချင်တယ်ဆိုတာ ကျုပ်သိတယ်။ ဆယ်လီက တောရိုင်း တိရစ္ဆာန်တွေ မျိုးဆက်မပြုတ်အောင် ထိန်းသိမ်းစောင့်ရှောက်ဖို့ ဘယ်လောက် အရေးကြီးတယ်ဆို တာ သူကကျုပ်ကို ပညာပေးနေတယ်ဗျ ' ဟု ပြောလိုက်သည်။

ဆယ်လီသည် လေယာဉ်ကို ခပ်နိမ့်နိမ့် ပျံသန်းလေသည်။ လေယာဉ်နိမ့်လာသည်နှင့်အမျှ အပူရှိန်က ပို၍ ပြင်းထန် လာလေသည်။ ခရိတ်သည် အောက်သို့ငုံ့ကြည့်လိုက်ရာ တောတောင်ရှုခင်းများ သာရှိပြီး လူသူနေထိုင်ခြင်း၊ သီးနှံ စိုက်ပျိုး ထားခြင်းများ လုံးဝမရှိကြောင်း တွေ့ရလေသည်။
'ဒီနေရာတွေ အခြေအနေတော်တော်ဆိုးတယ်ဗျ။ ရေအလွန်ရှားတဲ့အပြင် တိရစ္ဆာန်တွေအဖို့ စားကျက် ကောင်းကောင်းလည်း မရှိဘူး။ နောက်ပြီး အန္တရာယ်ပေးတဲ့ ဆက်ဆီးယင်ကောင်တွေ အလွန်ပေါတယ်'
ဗိုလ်ချုပ် ဗွန်ဂါဘီရာက ထိုနေရာအကြောင်း ခရိတ်အား ပြောပြလေသည်။

သို့ရာတွင်ဆယ်လီသည် ရေခန်းခြောက်နေသောချောင်းတစ်ခုရှိရာဘက်သို့ လေယာဉ်ကိုဆက်မောင်း သွားရာ မိုင်နှစ်ဆယ်ခန့်သွားမိသော် ဆင်ထီးကြီးတစ်ကောင်ကို တွေ့ရလေသည်။ ဆယ်လီသည် လေယာဉ်ကို သစ်ပင်ထိပ်ဖျားသာသာထိအောင် အလွန်နိမ့်စွာပျံသန်းလျက် ဆင်ထီးကြီးရှိရာနေရာ အနီးတွင် ကွေ့၍ပျံသန်းလေသည်။ ဆင်ကြီးနှင့် တောအုပ်ကြားနေရာ၌ လေယာဉ်ကို အစုန်အဆန် ပျံသန်းလိုက်ခြင်းအားဖြင့် ဆင်ကြီးသည် တောအုပ်အတွင်းသို့ ပြေးဝင်တိမ်းရှောင်ခြင်းမပြုနိုင်ဘဲ တောအုပ်ပြင်ဘက် မြေကွက်လပ်ဘက်သို့သာ သွားနိုင်လေသည်။

ဤတွင် ဆယ်လီသည် လက်တစ်ဖက်ဖြင့် လေယာဉ်ကို ထိန်းမောင်းပြီး ကျန်လက်တစ်ဖက်နှင့် ဆင်ကြီးအား ဓာတ်ပုံရိုက်ယူလေသည်။ ရုပ်ရှင်ဖလင်ဖြင့် ရုပ်ရှင်ရိုက်ယူခြင်းဖြစ်သည်။

' ဆင်ကြီးက တကယ့်ခံ့ညားတာပဲ၊ ဆင်စွယ်ကြီးတွေကလည်း ဆစ်ဖက်ကို အနည်းဆုံး အလေးချိန် ပေါင်တစ်ရာလောက်ရှိမယ် '

ဤသို့လည်း သူမသည် ရုပ်ရှင်ကင်မရာဖြင့် ရိုက်ကူးနေရင်း မှတ်ချက်ချလိုက်သည်။

ဆယ်လီက လေယာဉ်ကို ပျံသန်းနေသည်မှာ အလွန်နိမ့်လှသဖြင့် ခရိတ်သည် ဆင်ကြီးက လေယာဉ် တောင်ပံကို နှာမောင်းဖြင့် ချိတ်ဆွဲလိုက်လေမည်လောဟု တွေးတော စိုးရိမ်မိလေသည်။ အတန်ကြာ တော့မှ ဆယ်လီသည် ဆင်ကြီးရှိရာနေရာမှထွက်ခွာပြီး လေယာဉ်ကို ကောင်းကင်အမြင့်သို့ ပျံသန်း တက်မောင်းနှင်လေသည်။
သည်တော့မှ ခရိတ်လည်း စိတ်အေးသွားကာ သက်ပြင်းချနိုင်တော့သည်။ လေယာဉ်ကို အန္တရာယ်နီး ကပ်စွာ ပျံသန်းသည့်အတွက် ဆယ်လီကို စိတ်ထဲမှ ကျိန်ဆဲမိလေသည်။ ဆယ်လီ ကမူ ဗိုလ်ချုပ်ဖွန်ဂါ ဘီရာအား လှမ်းစကားပြောနေလေသည်။

' ဒီဆင်ကြီးရဲ့တန်ဖိုးကိုပြောရရင် အသေသတ်လိုက်ရင်တော့ ဒေါ်လာငွေ တစ်သောင်းတန်မယ်။ ဒါပေမဲ့ မသေဘဲရှင်နေရင်တော့ အဲဒါထက်ဆယ်ဆမကကို တန်ဖိုးရှိတယ်။ ဒီဆင်ထီးကြီးက တစ်ဆင့် နောက်ထပ် ဆင်အကောင် တစ်ရာလောက်သားစပ် မွေးလာနိုင်တယ် '

ထိုအခါ ဗိုလ်ချုပ်ဖွန်ဂါဘီရာက ခရိတ်ဘက်သို့ လှည့်၍ ...

' ဆယ်လီ ကတော့ ဒီဒေသမှာ တောဆင်ရိုင်းတွေကို တရားမဝင် ခိုးသတ်ဖြတ်နေသူတွေ ရှိတယ်လို့ ယုံကြည်နေတယ်ဗျ။ သူကိုယ်တိုင် ရိုက်ကူးထားတဲ့ ဓာတ်ပုံတွေကိုလည်း ကျုပ်ကြည့်ရတယ်။ ဆင်ရိုင်းတွေကို ရိုက်ထားတဲ့ပုံတွေက အလွန်လည်းကောင်းပါတယ်။ ကျုပ်ကိုယ်တိုင်တောင် ဆယ်လီ ပြောသလိုပဲ ဆင်တွေ ခိုးသတ်တာတွေအတွက် စိုးရိမ်စပြုလာမိပြီ' ဟု ပြောလိုက်သည်။

' ကျွန်မ တကယ်ပြောတာပါ ဗိုလ်ချုပ်၊ ဆင်ခိုးသတ်တဲ့ဂိုဏ်းတွေကို မတွေ့တွေ့အောင်ရှာပြီး ဖြိုခွင်း နှိမ်နင်းဖို့ သိပ်အရေးကြီးနေပြီရှင့် '

ဆယ်လီက ဝင်ပြောလိုက်ရာ ဗိုလ်ချုပ်ကလည်း ခေါင်းညိတ်လိုက်သည်။

' ဆင်ခိုးသတ်တဲ့ ဂိုဏ်းတွေကို ဆယ်လီကသာ လိုက်ရှာပေးစမ်းပါ။ ကျုပ်က အပြတ်နှိမ်နင်းပေးပါ့မယ်'

သူတို့နှစ်ဦး စကားပြောနေသည်ကို နားထောင်ရင်း ခရိတ်သည် စိတ်လှုပ်ရှားမှုတစ်မျိုး ခံစားမိလေသည်။ ယင်းကား ဆယ်လီနှင့်ဗိုလ်ချုပ်ဖွန်ဂါဘီရာ ရင်းရင်းနှီးနှီး စကားပြောနေသည်ကို မနာလို ဝန်တိုစိတ် ဖြစ်ပေါ်မိခြင်းပင်ဖြစ်သည်။

ဗိုလ်ချုပ် ဖွန်ဂါဘီရာသည် ကပ္ပလီလူမည်းတစ်ဦးဖြစ်လင့်ကစား အလွန်ခံ့ညားချောမွေ့သော အင်္ဂါရုပ်ရှိသဖြင့် အမျိုးသမီးများအဖို့ ကျလောက်စရာ ယောက်ျားတစ်ဦးဖြစ်နေသည်မှာ အမှန်ပင် ဖြစ်သည်။ ဤသို့ စိတ်ထဲမှ ဖြစ်ပေါ်မိရင်း ခရိတ်သည် နောက်သို့ လှည့်ကြည့်မိရာ ဗိုလ်ချုပ် ဖွန်ဂါဘီရာကလည်း သူ့အားပြန်၍သေချာစွာ အကဲခတ်ကြည့်နေသည်ကို မြင်ရလေသည်။ ဗိုလ်ချုပ်သည် ခရိတ်အား အဓိပ္ပာယ်ပါပါပြုံးလျက် 'ဒါထက် မစ္စတာခရိတ်ကတော့ ဒီကိစ္စအပေါ် ဘယ်လို သဘောရပါသလဲ ' ဟု မေးလိုက်သည်။

ထိုအခါ ခရိတ်က ဇင်ဘာဘွေနိုင်ငံတွင် သူလုပ်ရန် ရည်ရွယ်သောလုပ်ငန်းစီမံကိန်းအကြောင်း ပြောပြလိုက်လေသည်။ ချီဇာရီဒေသတွင် ကမ္ဘာလှည့် တိုးရစ္စခရီးသည်များ လာရောက်အပန်းဖြေ လေ့လာနိုင်အောင်စခန်းတစ်ခု တည်ဆောက်ဖွင့်လှစ်ရန် ရည်ရွယ်ကြောင်း၊ သူကိုယ်တိုင် ရင်ဆိုင်တွေ့ခဲ့ရသော ကြံ့နက်ကြီးတစ်ကောင်အကြောင်းနှင့် ပတ်ဝန်းကျင်ဒေသတွင် တောတောင်ရှုခင်းများ မူလသဘာဝအတိုင်း မပျက်မကွက်ရှိနေ၍ အလွန်တန်ဖိုးရှိလှကြောင်း စသည်ဖြင့် အကျယ်တဝင့် ပြောပြလိုက်သည်။

ခရိတ်ကပြောနေစဉ် ဆယ်လီသည်အလွန်စိတ်ဝင်စားဟန်ဖြင့် နားစိုက်ထောင်နေလေသည်။ ဗိုလ်ချုပ်ဖွန်ဂါဘီရာကမူ ခရိတ်၏လုပ်ငန်းစီမံကိန်းကို သဘောကျပုံ ရလေသည်။

' မစ္စတာခရိတ်ခင်ဗျား၊ အခုပြောနေတဲ့ ခင်ဗျားရဲ့ စီမံကိန်းက အလွန်ကောင်းပါတယ်။ ဒါမျိုးတွေ ကျုပ်တို့နိုင်ငံက အလွန်လိုအပ်ပါတယ်။ ဒီလုပ်ငန်းလုပ်ရင် မုချ အကျိုးရှိမယ်ဆိုတာလည်း ကျုပ်တို့ နိုင်ငံသားတွေက သဘောပေါက်ပါလိမ့်မယ် '

နာရီဝက်ခန့် ဆက်သွားမိကြသောအခါ ခပ်လှမ်းလှမ်းတွင် သွပ်မိုးနှင့် အဆောက်အအုံတစ်ခုကို မြင်ရလေသည်။

' အဲဒါ တူဘီ သာသနာပြု မစ်ရှင်စခန်းပဲ ရှင့် '

ဆယ်လီကပြောရင်းလေယာဉ်ကို မြေပြင်သို့ဆင်းသက်ရန်ပြင်ဆင်လေသည်။ ခရိတ်သည်အောက်သို့ ငုံ့ကြည့်လိုက်ရာ လူအချို့လေယာဉ်ကိုမော့ကြည့်ရင်း လက်ပြနှုတ်ဆက်နေကြသည်ကို မြင်ရလေသည်။

လေယာဉ်ကွင်းမှာ အလွန်သေးငယ် ကျဉ်းမြောင်းပြီး လေယာဉ်ပြေးလမ်းကြောင်းကလည်း ကြမ်းတမ်းလှပေသည်။ သို့ရာတွင် ဆယ်လီသည် လေယာဉ်ကို အထူးကျွမ်းကျင်စွာ ထိန်းမောင်းလျက် ညင်ညင်သာသာပင် ဆင်းသက်နိုင်လေသည်။ လေယာဉ်ကွင်းတွင် စစ်သားသုံးဦးသည် စစ်တပ်လင်းရိုဗာ မော်တော်ကားတစ်စီးဖြင့် အသင့်စောင့်နေရာ ဗိုလ်ချုပ် ဖွန်ဂါဘီရာအား စစ်သားများက အလေးပြုလိုက်ကြသည်။ ခရိတ်က ဆယ်လီအား လေယာဉ်ပေါ်မှဆင်းရန် ကူညီနေစဉ်မှာပင် စစ်သားများက ဝန်စည်စလယ်များကို လင်းရိုဗာကားပေါ်သို့ ပြောင်းရွှေ့တင်လိုက်ကြသည်။

ထို့နောက် အားလုံးကားပေါ်တက်၍ မောင်းထွက်ကြလေသည်။ လေဆိပ်ပြင်ဘက် မလှမ်းမကမ်းတွင် ခရစ်ယာန် ဘုရားရှိခိုးကျောင်းနှင့် သာသနာပြု မစ်ရှင်စာသင်ကျောင်းရှိရာ လင်ရိုဗာကားသည် ထိုနေရာအနီး သို့ ရောက်သောအခါဆယ်လီက ....

' ဒီမှာ အမျိုးသမီးရေချိုးခန်း ရှိမလားဟင် ' ဟု ပြောလိုက်သည်။

ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် ကားမောင်းသူစစ်သားအား ချက်ချင်းပင်ကားကို ခေတ္တရပ်ခိုင်းလိုက်သည်။ စာသင်ကျောင်း၏ ဝရန်တာတွင် ကပ္ပလီ(လူမည်း)ကလေးငယ်များ ရှိနေကြပြီး ကျောင်းဆရာမကိုယ်တိုင်ထွက်လာကာ ဆယ်လီအား ခရီးဦးကြိုပြုလေသည်။ ဆရာမသည် ဆယ်လီ၏ အရွယ်ခန့်ပင် ဖြစ်ပြီး အဝတ်အစားကို အထူးသပ်ရပ်စွာ ဝတ်ဆင်ထားသည်။ လှပကြော့ရှင်းသော ရုပ်ရည်လည်းရှိပေသည်။ ဆရာမသည် ဆယ်လီအားနှုတ်ဆက်စကားပြောပြီးနောက် ကျောင်းတွင်းသို့ ခေါ်သွားလေသည်။ အမျိုးသမီးနှစ်ဦး ဝင်သွားချိန်တွင် ဗိုလ်ချုပ်ဖွန်ဂါဘီရာက ခရိတ်အားပွင့်လင်းစွာ စကားပြောလေသည်။

' ခင်ဗျားနဲ့ကျုပ် တစ်ယောက်ကိုတစ်ယောက် နားလည်မှုရှိမှ ကောင်းလိမ့်မယ်ထင်တယ်။ လေယာဉ်ပေါ်တုန်းက ကျုပ်နဲ့ဆယ်လီစကားပြောနေတုန်းက ခင်ဗျားလှမ်းကြည့်နေတာသတိပြုမိတယ်။ ခင်ဗျားကြည့်ပုံက ကျုပ်နဲ့ဆယ်လီကို မသင်္ကာပုံမျိုး ဖြစ်နေတယ်။ ဒီမယ် မစ္စတာခရိတ်၊ ကျုပ် ရှင်းရှင်းပဲ ပြောပါမယ်။ ကျုပ်ဟာ ဆယ်လီရဲ့ ဉာဏ်အမြော်အမြင်ရှိမှု၊ လုပ်ငန်းကျွမ်းကျင်မှုတွေကို သဘောကျတာမှန်တယ်။ ဒါပေမဲ့ အဲဒါထက် မပိုဘူး။ ကျုပ်ဟာ မျက်နှာဖြူ အမျိုးသမီးကို လုံးဝ စိတ်မဝင်စားဘူး။

တပ်မက်တဲ့ စိတ်လည်းမရှိဘူး။ ဒါကြောင့် အခုလည်း ကျုပ်ဟာ ဆယ်လီကို ရိုးရိုးခင်မင်တာကလွဲလို့ ဘယ်လိုမှ စိတ်ထဲမှာ မရှိဘူး '

' ဒီလိုကြားရတာ ဝမ်းသာပါတယ်ဗျာ ' ခရိတ်က ပြုံး၍ ပြောလိုက်သည်။

' ဒါပေမဲ့ ဒီကျောင်းက ဆရာမကလေးကို ခင်ဗျားမြင်လိုက်တယ် မဟုတ်လား။ အဲ သူ့ကိုတော့ ကျုပ် စိတ်ဝင်စား မိတယ်ဗျ '

' ဩော် ဟုတ်လား '

' ဟုတ်တယ်၊ ဆရာမလေးရဲ့ နာမည်က ဆာရာ တဲ့။ သူဟာ ရုပ်ရည်ချောမောလှပသလောက် ဉာဏ်ပညာ ထက်မြက်သူလည်းဖြစ်တယ်။ အထက်တန်းပြ ဆရာမသင်တန်းမှာ ထိပ်ဆုံးက အောင်မြင်ခဲ့တယ်။ ဒ့ါအပြင် ယဉ်ကျေးရည်မွန်ပြီး ကျုပ်တို့ရဲ့ ရိုးရာထုံးတမ်းစဉ်လာ ယဉ်ကျေးမှုကိုလည်း တန်ဖိုးထား မြတ်နိုးသူလည်းဖြစ်တယ်။ တစ်နည်းအားဖြင့် ဆရာမဆာရာဟာ ခေတ်ပညာတတ် မိန်းကလေး တစ်ယောက်ဖြစ်ပေမယ့် ရှေးထုံးကိုမပယ်သူဖြစ်တယ်။ ဒါပေမဲ့ သူရဲ့ဖခင်က တိုင်းရင်းသား မှော်ဆရာ ဆေးဆရာကြီး တစ်ဦးဖြစ်တယ်။ ဒါမျိုးတွေကတော့ ကျုပ်တို့ အာဖရိကတိုက်မှာ ပျောက်ကွယ်မသွားသေးဘူးဗျ။ ဘာပဲဖြစ်ဖြစ် အဲဒီလို ရှေးရိုးရာထုံးစံတွေ မပျောက်ကွယ်တာကိုက စိတ်ဝင်စားရာ ပိုကောင်းတယ် '

ထိုအချိန်၌ အမျိုးသမီးနှစ်ဦးတို့သည် ကျောင်းတွင်းမှ ပြန်ထွက်လာပြီး စကားလက်ဆုံကျနေကြလေသည်။ ထို့နောက် ဆယ်လီက သူ၏ကင်မရာနှင့် ကျောင်းမှကလေးများကို ဓာတ်ပုံရိုက်ယူနေရာ ခရိတ်နှင့်ဖွန်ဂါဘီရာတို့က လင်းရိုဗာကားပေါ်မှ ထိုင်ကြည့်နေကြလေသည်။

' ဒါထက် ဗိုလ်ချုပ်၊ ခင်ဗျားကိုကြည့်ရတာ လုပ်စရာရှိတာကို အချိန်မဆိုင်းဘဲ ချက်ချင်းလုပ်တတ်တဲ့ လူတစ်ယောက် ဖြစ်ပုံရတယ်။ ဒါနဲ့များ ဆရာမလေးကိစ္စမှာ ဘာကြောင့် လက်နှေးနေရတာလဲ '

ခရိတ်ကမေးလိုက်ရာ ဗိုလ်ချုပ်ဖွန်ဂါဘီရာကမျက်နှာထားတည်တည်နှင့်ဆိုတော့အဲဒါက ပြဿနာပါပဲ' ထိုအခိုက် ဆရာမ ဆာရာ ဦးဆောင်လျက် ကျောင်းသူကျောင်းသား ကလေးငယ်များသည် ဧည့်သည်များအား ခရီးဦးကြိုပြုသည့် တေးသီချင်းတစ်ပုဒ် သီဆိုကြလေရာ ဆယ်လီက သဘောကျသဖြင့် သီချင်းဆိုနေပုံကို ဓာတ်ပုံရိုက်ယူကြပြန်လေသည်။

ထို့နောက် ဆယ်လီက လင်ရိုဗာကားပေါ် ပြန်တက်လိုက်ရာ ကလေးငယ်များက လက်ဝှေ့ယမ်းပြ၍ နှုတ်ဆက် ကြလေသည်။ သာသနာပြု မစ်ရှင်ကျောင်းမှ ဆက်လက် မောင်းထွက်လာသောအခါ လမ်းက အလွန်ကြမ်းတမ်းသဖြင့် သတိထားပြီး မောင်းသွားရလေသည်။ လမ်းတစ်လျှောက် မိုးရာသီ အတွင်းက မိုးရေများကြောင့် ဖြစ်လာသော ချိုင့်ကြီးများရှိနေ၍ လမ်းမကောင်းဘဲ ဖြစ်နေသည်။

မြောက်ဘက်သို့ မျှော်ကြည့်လိုက်သော် ညို့ညို့ဆိုင်းဆိုင်းနှင့် တောင်တန်းကြီးများ မြင်နေရလေ သည်။

' အဲဒါ သွန်ဂိုလာတောင်တန်းပဲဗျ၊ ဒီဒေသက အခြေအနေ အတော်ဆိုးတယ် '

ဗိုလ်ချုပ် ဖွန်ဂါဘီရာကပင် ပြောပြလေသည်။

တဖြည်းဖြည်းနှင့် သူတို့ ဦးတည် သွားနေသည့် ပြန်လည်ထူထောင်ရေး စခန်းနှင့် နီးလာသောအခါ ဖွန်ဂါဘီရာကပင် ရှင်းပြလေသည်။

' ခင်ဗျား သိထားရအောင် ပြောရဦးမယ်၊ ကျုပ်တို့ရဲ့ ပြန်လည်ထူထောင်ရေးစခန်းတွေဆိုတာက ဒုတိယ ကမ္ဘာစစ်အတွင်းက နာဇီဖက်စစ်တွေရဲ့ သုံ့ပန်းအကျဉ်းစခန်းတွေလိုမဟုတ်ပါဘူး။ လူတွေကို အတွေးအခေါ်မှန်လာအောင်ပညာပေးတဲ့ တကယ့်ပြန်လည်ထူထောင်ရေးစခန်းမျိုးဖြစ်တယ်။ ခင်ဗျား သိတဲ့အတိုင်း ကျုပ်တို့ ဇင်ဘာဘွေနိုင်ငံမှာ ဆယ်နှစ်ကျော်ကျော် ပြည်တွင်းစစ်ဒဏ်ကို အလူးအလဲ ခံခဲ့ကြရတယ်။ အဲဒီကာလ အတောအတွင်း အခုဆယ်ကျော်သက်အရွယ် လူငယ်တွေကဆိုရင် မောင်းပြန်ရိုင်ဖယ်သေနတ်ကိုင်ပြီး ကြီးပြင်းလာရတဲ့အတွက် သူတို့အနေနဲ့ ရန်သူကိုတိုက်ခိုက် သတ်ဖြတ်ဖို့လောက်ပဲ သိကြတယ်။ သူတို့ဟာလောကမှာ လိုရာဆန္ဒပြည့်ဝရေးအတွက် နှောင့်ယှက် တားဆီးနေသူတွေကို သတ်ပစ်မှပဲရမယ်ဆိုတဲ့ အသိမျိုးရှိနေကြတယ် '

ဗိုလ်ချုပ် ဖွန်ဂါဘီရာသည် စကားကိုခေတ္တ ဖြတ်ထားပြီး သက်ပြင်းချလိုက်သည်။

အမှန်တော့ သူကိုယ်တိုင် ဖြတ်သန်းကျော်လွှားခဲ့ရသည့် လက်တွေ့ဘဝကိုပင် ပြန်ပြောင်း ပြောနေ ခြင်း ဖြစ်ကြောင်း ခရိတ်က ရိပ်မိလေသည်။ ဖွန်ဂါဘီရာ က စကားဆက်ပြန်လေသည်။

' ဒီလူငယ်တွေမှာ သူတို့ရဲ့ ခေါင်းဆောင်အချို့ကြောင့် အတွေးအခေါ် အယူအဆတွေ လွဲမှားနေ တယ်။ တော်လှန်ရေးစစ်ပွဲအတွင်းက အနေအထိုင် အစားအသောက် အလွန်ဆင်းရဲနေတုန်းက ခေါင်းဆောင်အချို့က လူငယ်တွေကိုကတိအမျိုးမျိုးအလွယ်တကူပေးခဲ့ကြတယ်။ တကယ့်လက်တွေ့

ကျတော့ အဲဒီကတိအတိုင်း လုပ်ပေးနိုင်တာလည်း မဟုတ်ဘူး။ ဥပမာ ခေါင်းဆောင်တွေက လူငယ်တွေကို တော်လှန်ရေး အောင်မြင်သွားရင် မြေသြဇာ အလွန်ကောင်းတဲ့ စိုက်ပျိုးရေးမြေကွက်တွေ၊ မွေးမြူရေးတိရစ္ဆာန်တွေ၊ မော်တော်ကားတွေ၊ ငွေကြေးတွေရမယ့်အပြင် မိန်းမတွေလည်း အများကြီး ရမယ်လို့ ပြောခဲ့တယ် '

ဤနေရာတွင် ဖွန်ဂါဘီရာသည် ဒေါသထွက်လာဟန်ဖြင့် အံကြိတ်လိုက်ပြီးမှ ဆက်ပြောလေသည်။
' အဲဒီ ကတိမျိုးတွေကြောင့် လူငယ်တွေဟာ အကြီးအကျယ် မျှော်လင့်ချက်တွေ ထားခဲ့ကြတယ်။ နောက်တော့ တော်လှန်ရေးပြီးဆုံးတဲ့အခါ မူလက ပေးထားတဲ့ ကတိတွေအတိုင်း ဖြစ်မလာတော့ လူငယ်တွေဟာ စိတ်နာပြီး ကတိပေးခဲ့သူ ခေါင်းဆောင်တွေကို ဆန့်ကျင်ပြီး ရန်လုပ်လာကြတယ်။ လူငယ်တွေ ဆိုတာကလည်း စစ်လေ့ကျင့်မှုသင်တန်းတွေ တက်ခဲ့ဖူးပြီး လက်နက်တွေလည်း ကိုယ်စီ ရှိကြတယ်။ တော်လှန်ရေးစစ်ပွဲကာလ သတ်ဖြတ်ခဲ့ဖူးတဲ့ အတွေ့အကြုံတွေကြောင့် နောက်ထပ် လူသတ်ရမှာ ဝန်မလေးကြသူတွေလည်း ဖြစ်တယ်။ ဒီတော့ ကျုပ်တို့ဘာလုပ်ရမလဲဆိုတာ စဉ်းစားသာ ကြည့်ပေတော့ '

ဤတွင် ဗိုလ်ချုပ်ဖွန်ဂါဘီရာ သည် သူ၏ လက်ပတ်နာရီကို ကြည့်လိုက်ပြီး

' ကိုင်း၊ နေ့လယ်စာ စားဖို့ အချိန်တော်ပြီ ကားခဏရပ်ပြီး အညောင်းဆန့်ဖို့လည်း ကောင်းတယ် ' ဟု ပြောလိုက်သည်။ ယာဉ်မောင်းသူ စစ်သားသည် မော်တော်ကားကို သစ်သားတံတားတစ်ခု အနီးတွင် ရပ်လိုက်သည်။ တံတားအောက်တွင် ဖြတ်သန်းစီးဆင်းနေသော ချောင်းထဲတွင် ကြည်လင်သန့်ရှင်းသော ရေများတသွင်သွင် စီးလျက်ရှိလေသည်။

လိုက်ပါလာသော စစ်သားများက ချက်ချင်းမီးမွေးပြီး စားသောက်ဖွယ်ရာများကို ပြင်ဆင်နေစဉ် ဗိုလ်ချုပ် ဖွန်ဂါရာသည် ခရိတ်နှင့် ဆယ်လီတို့နှင့်အတူ အညောင်းပြေလျှောက်ရင်း သူ ပြောလက်စ စကားများကို ဆက်ပြော လေသည်။

' ကျုပ်တို့ အာဖရိကတိုက်က တိုင်းရင်းသားတွေမှာ ရှေးရိုးအစဉ်အလာ ဓလေ့တစ်ခုရှိတယ်။ အဲဒါက ဘာလဲဆိုတော့ လူငယ်တစ်ယောက်ဟာ ဆိုးသွမ်းပြီး မိမိတို့တိုင်းရင်းသား လူမျိုးစုရဲ့ စည်းကမ်း ဥပဒေတွေကျူးလွန်ဖောက်ဖျက်လာရင် အဲဒီလူငယ်ကိုရွာထဲကထုတ်ပြီး တောထဲမှာသွားနေစေတယ် ဟိုကျတော့ ကျေးရွာလူကြီးတွေကဒီသူငယ်ကို အမြန်မှန်ရပြီးလူကောင်းပြန်ဖြစ်လာအောင်ဆုံးမပဲ့ပြင် သွန်သင် လေ့ကျင့်ပေးတယ်။

အခု ကျုပ်တို့ရဲ့ ပြန်လည် ထူထောင်ရေးစခန်းဆိုတာလည်း အဲဒီရိုးရာဓလေ့ကို အခြေပြုတဲ့ ခေတ်မီ လေ့ကျင့်ရေး စခန်းတစ်ခုပါပဲ။ ကျုပ်အနေနဲ့ ခင်ဗျားမသိအောင် ဘာကိုမှဖုံးကွယ်မထားပါဘူး။ တစ်ခု တော့ရှိတယ် ကျုပ်တို့ အခုသွားလေ့လာကြည့်မယ့် ပြန်လည်ထူထောင်ရေးစခန်းဟာ ဖိမ်ခံအပန်းဖြေ အနားယူ စခန်းတော့ မဟုတ်ဘူး။ စခန်းမှာရောက်နေတဲ့ လူတွေက ခေါင်းမာတဲ့လူတွေဖြစ်လေတော့ သူတို့ကို စည်းကမ်းရှိလာအောင် ပညာပေးရာမှာ ခပ်ကြမ်းကြမ်း လုပ်မှပဲရတယ်။

ဒါတောင်မှ ပြန်လည်ထူထောင်ရေးစခန်းဟာ လူတွေကိုညှဥ်းပန်းနှိပ်စက်သတ်ဖြတ်တဲ့နေရာ မဟုတ် ပါဘူး။ နှိုင်းယှဥ်ပြီးပြောရရင် ဗြိတိသျှစစ်တပ်က စစ်အကျဥ်းသားတွေထားတဲ့ အကျဥ်းစခန်း တစ်ခုလို ပါပဲ။ ဟိုရောက်တဲ့အခါ ခင်ဗျားအနေနဲ့စခန်းက လူတွေကို လွတ်လပ်စွာ စကားပြောနိုင်ပါတယ်။ ဒါပေမဲ့ တစ်ခုတော့ သတိပေးချင်တယ်။ စခန်းပတ်ဝန်းကျင်က တောထဲကို ခင်ဗျားတို့သဘောနဲ့ ထွက်မသွားပါနဲ့။ အထူးသဖြင့် ဆယ်လီက တစ်ယောက်တည်း တောထဲထွက်သွားဖို့ လုံးဝမကြံပါနဲ့။ ဒီနေရာက အလွန်တောခေါင်တဲ့အတွက် ကျားသစ်နဲ့တောခွေးရိုင်းတွေရှိတယ်။

အလွန်အန္တရာယ်များတယ်။ တကယ်လို့ ခင်ဗျားတို့က စခန်းပြင်ဘက်ထွက်ချင်တယ်ဆိုရင် ကျုပ်ကို သာပြောပါ။ လက်နက်ကိုင် အစောင့်အရှောက်စီစဥ်ပေးပါမယ် '

ဗိုလ်ချုပ် ဖွန်ဂါဘီရာက ပွင့်လင်းစွာ ပြောသည်ကို ခရိတ်က သဘောကျမိလေသည်။ ထို့နောက် စားသောက်ဖွယ်ရာများ ပြင်ဆင်ပြီးသဖြင့် သူတို့သည် နေ့လယ်စာစားပြီးကြလေသည်။ နေ့လယ်စာ ဆိုသော်လည်း ဒေသထွက်ပြောင်းဖူးများကို မီးကင်ထားသော ဟင်းလျာသာဖြစ်ပြီး လက်ဖက် ရည်ကြမ်း သောက်ရင်း စားကြရလေသည်။

စားသောက်ပြီး၍ ဆက်လက်ထွက်ကြရာ တစ်နာရီခန့်ကြာသော် တူတီပြန်လည်ထူထောင်ရေးစခန်း သို့ ရောက်သွားကြလေသည်။ စခန်းပြုလုပ်ထားရာနေရာသည် တစ်ချိန်က(ဇင်ဘာဘွေတော်လှန်ရေး စစ်ပွဲအတွင်းက) မျက်နှာဖြူ ဝန်ကြီးချုပ်စမစ်၏ အစိုးရခံတပ်စခန်းတစ်ခု ဖြစ်ခဲ့သည်။

ချုံနွယ်ပိတ်ပေါင်းအားလုံး ရှင်းလင်းထားသော ကွက်လပ်ကြီးတွင် ကျောက်တုံးကြီးများကိုစီ၍ဆင့်ကာ ရှင်းလင်းထားသောကွက်လပ်ကြီးတွင် ကျောက်သဖွယ်ဖန်တီးထားလေသည်။ စက်သေနတ်တပ်ဆင် ပြီး တိုင်းရင်းသား ပြောက်ကျားများအား ပစ်ခတ်တိုက်ခိုက်ရန် နေရာများလည်းရှိသည်။ မြေကွက် လပ်၏ ဘေးပတ်ဝန်းကျင်ပတ်လည်တွင် ရွှံ့စေးဖြင့်တည်ဆောက်၍ သက်ငယ်မိုးထားသော အိမ်ငယ်များ ရှိလေသည်။

မျက်နှာဖြူအစိုးရက ထိုဒေသရှိ လယ်သမားများအား ပြောက်ကျားတော်လှန်ရေးသမားများရန်မှ ကာကွယ်ပေးရန် တည်ဆောက်ထားခဲ့သော ခံတပ်စခန်းတစ်ခုပင်တည်း။ စခန်းပတ်လည်တွင်ကျုံးကဲ့သို့ မြောင်းကြီးဖော်လုပ်ထားပြီး မြောင်း၏နှစ်ဖက်ကမ်းတွင် သံဆူးကြိုးများ ကာရံထားလေသည်။ သံဆူးကြိုးများကို ခပ်စိပ်စိပ်ကာထားပြီး အမြင့်ဆယ်ပေခန့်ရှိလေသည်။ ကျုံးသို့မဟုတ် မြောင်းကြီး အတွင်းဘက်အောက်ခြေတွင် သစ်သားဆူးငြောင့်ကြီးများ စိုက်ထူထားသည်။ စခန်း၏ လေးထောင့်တွင်ကား လက်နက်ကိုင်အစောင့်များ နေ့ညမပြတ်စောင့်ရန် မျှော်စင်ကြီးများတည်ဆောက် ထားလေသည်။

လင်းရိုဗာကားသည် စခန်း၏ဂိတ်ဝသို့ ချဉ်းကပ်မိသောအခါ ဂိတ်မှတာဝန်ကျအစောင့်များက ဗိုလ်ချုပ် ဖွန်ဂါဘီရာကိုမြင်ပြီး အလေးပြုကြသည်။ စခန်းတစ်ခုလုံးတွင် ဝင်ထွက်သည့် တံခါးပေါက်ဆို၍ တစ်ခုတည်းသာရှိလေသည်။ ခရိုတ်သည် စခန်းအတွင်းသို့ လှမ်းကြည့်လိုက်ရာ ကာကီဘောင်းဘီတိုသာ လျှင် ဝတ်ဆင်ထားသူ တိုင်းရင်းသား လူမည်းလူငယ်သုံးရာခန့်တို့သည် နေပူကျဲကျဲတွင် ကိုယ်လက်လှုပ်ရှားမှု လေ့ကျင့်ခန်းလုပ်နေကြသည်ကို မြင်ရလေသည်။

သက်ငယ်မိုး ရွှံ့တဲများ၏ပြင်ဘက်တွင် နောက်ထပ်လူငယ်အတော်များများသည် စည်းကမ်းတကျ တန်းစီထိုင်၍ ကြည့်နေကြလေသည်။

' စခန်းအတွင်း လှည့်လည် လေ့လာကြည့်တာကိုတော့ နောက်မှပဲ လုပ်ကြတာပေ့ါ။ လောလောဆယ် ခင်ဗျားတို့ နေသားတကျရှိအောင် နေရာချပေးဖို့လိုတယ် '

ဗိုလ်ချုပ် ဖွန်ဂါဘီရာက ပြောပြီးနောက် ယာယီတည်းခိုရန် နေရာများကို စီစဉ်ပေးလေသည်။

ခရိုတ် တည်းခိုနေထိုင်ရန်အတွက် ရွှံ့ဖြင့်တည်ဆောက်ထားသော သက်ငယ်မိုးတဲတစ်တဲ စီစဉ်ပေး လေသည်။ တဲအတွင်း၌ ကြမ်းခင်းဆို၍ မြေကြီးသာ ဖြစ်နေသော်လည်း သန့်ရှင်းစွာ လှည်းကျင်းပြီး ရေများဖျန်းထားလေသည်။ အိပ်ရာနေရာအဖြစ်ကား မြေကြီးပေါ်တွင် ကျူဖျာတစ်ချပ် ခင်းပေးထား သည်။ ဖျာပေါ်တွင် ဖယောင်းတိုင် တစ်ထုပ်နှင့် မီးခြစ်တစ်လုံး ချထားသည်ကို တွေ့ရလေသည်။ ဤကားအရေးကြီးသောပုဂ္ဂိုလ် အထူးဧည့်သည်တော်များအတွက် သီးသန့်စီစဉ်ပေးသည့်တည်းခိုခန်း ပင် ဖြစ်တန်ရာသည်ဟု ခရိုတ်က အောက်မေ့မိလေသည်။

ဆယ်လီကိုလည်း ခရိုတ်၏တဲနှင့်ခပ်လှမ်းလှမ်းရှိ တဲတစ်တဲတွင် နေရာချပေးလေရာ သူမသည် အလွန်ချို့တဲ့သော တည်းခိုခန်းကို မည်သို့မှ စိတ်ပျက်ပုံမရချေ။ ခရိုတ်က သူမ၏ တဲဘက်သို့ လှမ်း

လက်ပတ်နာရီကို ကြည့်လိုက်သောအခါ အချိန်မှာ ဆယ်နာရီကျော်နေပြီ ဖြစ်ကြောင်း တွေ့ရလေသည်။ သို့သော် သူ့အနေဖြင့် စိတ်လှုပ်ရှားမှုကြောင့် အိပ်ရာဝင်လျှင် အိပ်ပျော်မည်မဟုတ် တထစ်ချ သိနေလေသည်။ ထို့ကြောင့် သူသည်ဆွယ်တာအကျီတစ်ထည် ဝတ်၍ ပြင်ဘက်သို့ လမ်းလျှောက်ထွက်ခဲ့လေသည်။ နောက် တစ်နာရီခန့်ကြာသော ခရိတ်သည် ဆယ်လီ၏ တိုက်ခန်းရှေ့သို့ရောက်သွားလေသည်။ သည်တစ်ခါတော့ ပြတင်ပေါက်ပွင့်နေပြီး မီးများလင်းနေလျက်ရှိရာ ခရိတ်သည် ဝမ်းမြောက်ဝမ်းသာ အားတက်သွားကာ တိုက်ခန်းတံခါးသို့သွား၍ အသာတံခါးခေါက်လိုက်သည်။ ချက်ချင်းလိုပင် အိမ်ခန်းတွင်း မှ ဆယ်လီ ၏ အသံကိုကြားရလေသည်။

"ဘယ်သူပါလဲရှင်"
"ကျုပ်ပါ၊ ခရိတ်ရယ်ပါ"

"ဟင် ဟုတ်လား၊ အခုအချိန်က ညဥ့်သန်းခေါင် နီးနေပြီရှင့်"

"ဆယ့်တစ်နာရီခွဲပဲ ရှိပါသေးတယ်။ ကျုပ်အခုလာခဲ့တာဟာ မင်းကိုပြောစရာရှိလို့"

"ဒါဖြင့်လည်း လာလေ"

ဆယ်လီက တံခါးဖွင့်ပေးသဖြင့် ခရိတ်သည် အတွင်းသို့ ဝင်လိုက်သည်။ ဆယ်လီမှာ ဓာတ်ပုံ အမှောင်ခန်းအတွင်း၌ ဖလင်များ ဆေးလက်စဖြစ်နေ၍ အမှောင်ခန်းထဲသို့ ပြန်ဝင်သွားလေသည်။

"ရှင်ငါးမိနစ်လောက် ခဏစောင့်နေဦးနော်။ ကျွန်မ သိပ်မကြာတော့ဘူးရှင့်။ ရှင်စောင့်နေတုန်း ကော်ဖီဖျော် သောက်နှင့် ပါလား"

ဤသို့ ဆယ်လီက အမှောင်ခန်းတွင်းမှ လှမ်းအော်ပြောလိုက်သည်။ ငါးမိနစ် ခန့်ကြာလျှင် ဆယ်လီသည် ပြန်ထွက်လာလေသည်။

"အခုလိုအချိန်မတော်ကြီး လာခဲ့တယ်ဆိုတော့ ရှင်ပြောစရာဆိုတာက တကယ်အရေးကြီးလို့ပဲ ဖြစ်မယ်"
"ကျုပ်က အခုရိုလင်ကို ပိုင်ဆိုင်လာပြီ" ခရိတ်၏စကားကို ဆယ်လီက နားလည်ပုံမရချေ"

"နေပါအုံးရှင့်။ ရိုလင်ဆိုတာ ဘယ်သူလဲ ဘာလဲ"

"ကျုပ် တိုးရစ္စစခန်းဖွင့်ဖို့ရည်ရွယ်တဲ့ ဇမ်ဘောဇီမြစ်ရေများဒေသ နယ်မြေကိုပိုင်ဆိုင်တာကရှိလင် ကုမ္ပဏီလေ"

သည်တော့မှ ဆယ်လီသည် သဘောပေါက်သွားကာ ဝမ်းမြောက်ဟန်ဖြင့် ခရိုတ်အနီးသို့ ချဉ်းကပ်လာလေသည်။

"ဟင်၊ ဟုတ်လား။ ကျွန်မက ဒီကစ္စ ရေစုန်မျောသွားပြီလို့ အောက်မေ့နေမိတယ်"

"ဗိုလ်ချုပ်ဖွန်ဂါဘီရာ ကိုယ်တိုင်က ဒေါ်လာငွေ သိန်းငါးဆယ် ချေးယူနိုင်ဖို့အတွက် အာမခံတယ်"

"ဟာ၊ ဒေါ်လာသိန်းငါးဆယ်ဆိုတော့ များလှချည်လားရှင့်။ ရှင်ကအဲဒီလောက်များများ ငွေကို ချေးယူမယ် ဆိုတော့ အတိုးက ဘယ်လောက်ကျနေမှာလဲ"

ထိုကိစ္စ ကို ခရိုတ်သည် မပြောလိုသဖြင့် ခေတ္တငိုင်နေမိရာ ဆယ်လီကလည်းချက်ချင်းရိပ်မိပြီး အားနာသွားပုံ ရလေသည်။

"ကျွန်မမေးတာ စိတ်မရှိပါနဲ့နော်။ ဘာပဲဖြစ်ဖြစ် ကျွန်မတော့ ရှင့်အတွက်သိပ်ဝမ်းသာတာပဲ။ အခုလို သတင်းကောင်း ကြားရမှတော့ ဝမ်းမြောက်တဲ့အထိမ်းအမှတ် ယမကာသောက်မှ ဖြစ်မယ်"

ပြောပြောဆိုဆို သူမသည် ဝီစကီအရက်ပုလင်းထုတ်ယူလာပြီး ဖန်ခွက်နှစ်ခွက်တွင်ထည့်ကာ နှစ်ယောက်သား ဂုဏ်ပြုညှော်ခံပွဲများမှာလို ခွက်မြှောက်ဆုတောင်းပြီး သောက်ကြလေသည်။

"ဇမ်ဘောဇီ မြစ်ရေများ စီမံကိန်းကြီး အောင်မြင်ပါစေ" ဆယ်လီက ဤသို့ဆုတောင်းပြီးမှ ဆက်လက်၍ "ကဲ အသေးစိတ် အချက်တွေ ပြောပြပါဦး၊ ရှင်ပြောလို့ ပြီးတော့မှ ကျွန်မကလည်း ရှင့်အတွက် သတင်းကောင်းတစ်ခု ထပ်ပြောရဦးမယ်" ဟုပြောလေသည်။

ခရိုတ်ကလည်း သူရည်ရွယ်ထားသော စီမံကိန်းအကြောင်း အသေးစိတ်ပြောပြလေရာ ညဥ့်သန်းခေါင်ကျော်တိုင်အောင်ပင် ဖြစ်သွားလေသည်။ မြေယာကွက်ကြီး၏တောင်ဘက်တွင် မွေးမြူရေးခြံကြီးနှစ်ခု တည်ဆောက်ပြီး မိမိတို့လူနေအိမ်ကြီးကိုလည်း ပြန်လည်တည်ဆောက်မည့် အကြောင်း၊မွေးမြူရေးခြံများတွင် နို့စားနွား၊ ခိုင်းနွားအမျိုးအစားကောင်းများကို ရယူမွေးမြူထားမည့်အကြောင်း စသည်တို့ကို အသေးစိတ်ပြောပြပြီးနောက်၊ ခရိုတ်ကအဓိကအားဖြင့် သူ၏ဇမ်ဘောဇီမြစ်ရေများ စီမံကိန်းအကြောင်းနှင့်တောရိုင်းတိရစ္ဆာန် မျိုးဆက်မပြုတ်အောင် ထိန်းသိမ်းစောင့်ရှောက် ကာကွယ်ရေး စီမံချက်အကြောင်းကို အကျယ်တဝင့် ပြောပြလိုက်လေသည်။

ဆယ်လီ ကိုယ်တိုင်က အာဖရိက တိရစ္ဆာန်များ ကာကွယ်စောင့်ရှောက်ရေးကို အထူးစိတ်ဝင်စားမှန်း သိ၍လည်း ခရိတ်က အသေးစိတ်ပြောပြလိုက်ခြင်း ဖြစ်လေသည်။

"နောက်ပြီး၊ ကျုပ်တစ်ခုလည်း စဉ်းစားမိသေးတယ်။ ကျုပ်ရဲ့လုပ်ငန်းမှာ အမျိုးသမီးတစ်ယောက် ပါရင်ကောင်းမယ်ထင်တယ်။ စီမံကိန်းတွေ အကောင်အထည်ဖော်ရာမှာ စိတ်ကူးကောင်းကောင်းနဲ့ အကွက်ချ စီမံပေးဖို့လိုတယ်။ အဲဒီအမျိုးသမီးကလည်း အာဖရိကတိုက်ရဲ့ သဘာဝရှုခင်းတွေ အကြောင်းစိတ်ဝင်စားပြီး နားလည်မှုရှိတဲ့ အမျိုးသမီးဖြစ်ဖို့လိုတယ်"

ခရိတ် က စကားကို အဆုံးသတ်လိုက်လျှင် ဆယ်လီသည် ချက်ချင်းပင်ဆိုလိုသည့် အဓိပ္ပာယ်ကို သဘော ပေါက် သွားလေသည်။

"ဒီမယ်ခရိတ်၊ ရှင်အခုပြောလိုက်တာဟာ ကျွန်မကိုရည်ရွယ်ပြီး ပြောတာဆိုရင် မလွယ်ဘူးထင် တယ်။ ကျွန်မဟာ ကမ္ဘာတောရိုင်းများ ကာကွယ်စောင့်ရှောင့်ရေးအဖွဲ့ချုပ်ရဲ့ ထောက်ပံ့မှုနဲ့ ဒီကို လာနေရသူဖြစ်တော့ ကျွန်မကသူတို့အတွက်ပဲ အချိန်ပြည့် လုပ်အားပေးရမယ်ရှင့်"

"မင်းအနေနဲ့ ကျုပ်ရဲ့ အလုပ်မှာအချိန်ပြည့် ဝင်လုပ်ဖို့မလိုပါဘူးကွဲ့။ လုပ်ငန်းရဲ့အတိုင်ပင်ခံ အကြံပေး ပုဂ္ဂိုလ်သဘော သက်သက်ပါပဲ။ မင်းအားလပ်လို့ အချိန်ရတဲ့ တစ်နေ့တလေ မင်းရဲ့လေယာဉ်နဲ့မောင်း လာပြီး ကြည့်ရှုအကြံပေးဖို့လောက်ပဲတာဝန်ရှိမှာပါ။ ကျုပ်အခြေကျလို့ လည်ပတ်လာတဲ့အခါကျတော့ လာရောက်လည်ပတ်တဲ့ ဧည့်သည်တွေကို မင်းကအာဖရိကတိုက် အကြောင်း တောရိုင်း တိရစ္ဆာန် တွေရဲ့သဘာဝအကြောင်းတွေကိုဟောပြောပို့ချတာတို့၊ မင်းရိုက်ကူးထားတဲ့ ဓာတ်ပုံတွေကိုဆလိုက် ရုပ်ရှင်ပြစက်နဲ့ ပြသရင်းရှင်းပြတာတို့၊ အဲဒီလုပ်ငန်းတွေရုံဖန်ရံခါလုပ်ပေးဖို့ပဲ ဖြစ်ပါတယ်ဆယ်လီရယ်" ခရိတ်က ဤသို့ပြောလိုက်ခြင်းမှာ ဆယ်လီအနေဖြင့် မုချစိတ်ပါဝင်စားမည့်အချက်ကို အမိကထား ပြောလိုက်ခြင်းဖြစ်သည်။ သူမ၏ ဓာတ်ပုံလက်ရာများ ခင်းကျင်းပြသရန် အခွင့်အရေး ရမည်ဆိုလျှင် ဆယ်လီသည် မလွဲမသွေ စိတ်ပါဝင်စားလိမ့်မည်ဟုတွက်၍ ပြောလိုက်ခြင်းဖြစ်သည်။ တကယ်လည်း ဆယ်လီက အနုပညာသမားပီပီ စိတ်ဝင်စားလာပုံ ရလေသည်။

"ကျွန်မက အတိအကျ ကတိတော့ မပေးနိုင်သေးဘူးရှင့်"

ဤသို့ ဆယ်လီ က ခပ်တည်တည်ပြောလိုက်သော်လည်း တကယ်တော့ ဟန်ဆောင်ပြောခြင်းသာ ဖြစ်ပြီး စိတ်ထဲ ကတော့ သူမသည် ခရိတ်၏ ကမ်းလှမ်းချက်ကို စိတ်ဝင်စားရုံမက လက်ခံသည့် အသွင်မျိုး ဖြစ်နေသည်မှာ သိသာထင်ရှားနေပေသည်။

"ဩော်ဒါထက် မင်းက ကျုပ်အတွက် သတင်းကောင်း ပြောစရာရှိသေးတယ်ဆို"

ခရိတ် က အသိပေးလိုက်မှ ဆယ်လီသည် ခေါင်းညိတ်လိုက်သည်။

"ဟုတ်ပါရဲ့၊ မေ့နေလိုက်တာ၊ ကျွန်မကသတင်းကောင်း ပြောစရာရှိတာ အမှန်ပဲ။ ဒီမယ် တောရိုင်း တိရစ္ဆာန်တွေကို မတရားခိုးသတ်ဖြတ်တဲ့ဂိုဏ်းရဲ့ အဓိကထိပ်သီးခေါင်းဆောင်ကိုသိရဖို့ ကျွန်မက သဲလွန်စ ရထားပြီရှင့်"

"ဟေ၊ ဟုတ်လား၊ အဖိုးတန် ဆင်ကြီးတွေ ခိုးသတ်နေတဲ့ ဂုဏ်းရဲ့ခေါင်းဆောင်လား။ ဒါဟာ တကယ့် သတင်းကောင်းပဲပေါ့။ အဲဒီလူကဘယ်မှာလဲ။ ဘယ်လိုလုပ်ပြီး ခိုးသတ်တာလဲ"

ခရိတ်က ဝမ်းသာအားရဖြစ်လျက် ပြန်မေးလိုက်သည်။

"လွန်ခဲ့တဲ့ဆယ်ရက်အတွင်း အရှေ့ပိုင်းတောင်တန်းဒေသကို ကျွန်မသွားနေခဲ့တာရှင်သိတယ်မဟုတ်လား။ ဒါပေမဲ့ ကျွန်မက ရှင့်ကိုဘာသွားလုပ်တယ်ဆိုတာ အသေးစိတ်ပြောမပြခဲ့ဘူး။ တကယ်တော့ ကျွန်မဟာ ကမ္ဘာ့တောရိုင်းတိရစ္ဆာန်များ ကာကွယ်စောင့်ရှောက်ရေးအဖွဲ့ကြီးရဲ့ တာဝန်ပေးချက်အရ ကျားသစ်သတ္တဝါတွေ အကြောင်းလေ့လာရေးသွားတာ ဖြစ်တယ်။ ကျားပေါက်တဲ့ ဒေသမှာ ကျွန်မနဲ့ အဆက်အသွယ်ရှိတဲ့လူတွေ တော်တော်များများရှိတယ်။ ကျွန်မရဲ့လုပ်ငန်းက တောထဲလက်ရှိရှိနေတဲ့ကျားသစ်သတ္တဝါတွေရဲ့ ကောင်ရေစာရင်းကို ကောက်ယူပြုစုရတဲ့အပြင် ကျားသစ်တွေ သွားလာ ကျက်စားတဲ့နေရာတွေကိုပါ လေ့လာမှတ်သားကြရပါတယ်။

ဒါအပြင် ကျားသစ်တွေအစာအဖြစ် သားကောင်ဖမ်းယူတာတို့၊ ကျားသစ်မတစ်ကောင်က သားပေါက် ပြီဆိုရင် ဘယ်နှစ်ကောင် မွေးတယ်ဆိုတာကအစ အတိအကျ စာရင်းပြုစု မှတ်တမ်းတင်ရပါတယ်။ ကျွန်မရဲ့လုပ်ငန်းတွေမှာ ကူညီဆောင်ရွက်ပေးတဲ့ လူတစ်ယောက်အကြောင်း ပြောရဦးမယ်။ ဒီလူ ဟာ အသက်ရှစ်ဆယ်အရွယ် အဘိုးကြီးဖြစ်ပြီး တစ်ချိန်က သားရဲတိရစ္ဆာန်တွေ ခိုးသတ်တဲ့ဂိုဏ်းထဲ မှာပါခဲ့ဖူးတယ်။ သူကရှန်ဂါနီ တိုင်းရင်းသားလူမျိုးတစ်ဦးပါ။ အလွန်ပျော်ပျော်နေတတ်ပြီး ဝီစကီ အရက်ကိုလည်း သိပ်ကြိုက်တယ်။ ခပ်တေတေ အဘိုးကြီးတစ်ယောက်ဆိုပါတော့ရှင်။ ဒါနဲ့ ကျွန်မတို့ ဟာ ဗန်ကောက်တောင်ပေါ်ဒေသကို သွားလေ့လာကြတုန်း၊ တစ်နေ့စခန်းမှာ သူနဲ့ကျွန်မ နှစ်ယောက် တည်း ရှိနေတုန်း အဘိုးကြီးလွှတ်ခနဲစကားတစ်ခု ပြောလိုက်မိတယ်။ တကယ်လို့ သူကကျားသစ်ရေ တစ်ခုရအောင်ယူနိုင်ရင် ဒေါ်လာငွေနှစ်ရာ ပေးဝယ်ယူဖို့ အသင့်ရှိသတဲ့။ အဲဒီ ဝယ်နိုင်သူကလည်း ကျားသစ်ရေဆိုရင် ရနိုင်သလောက် ဝယ်ယူဖို့အသင့်ရှိသတဲ့။ နောက်ပြီး ကျားသစ်တွေကို အလွယ်

တကူ ဖမ်းနိုင်အောင် သံမဏိထောင်ချောက်တွေကို ဝယ်သူတွေက ပေးမယ်လို့လည်း ပြောတယ်တဲ့။ ကျွန်မကလည်း စိတ်ဝင်စားလာတာနဲ့ အကြောင်းစုံသိရအောင် အဘိုးကြီးကို အရက်ထပ်တိုက်ပြီး အစ်မေးကြည့်တာပေါ့။ အဲဒီလိုကျားသစ်ရေတွေကို ဈေးကောင်းပေးပြီး ဝယ်မယ့်လူက အဝတ်အစား သပ်သပ်ရပ်ရပ် ဝတ်ဆင်ထားတဲ့ တိုင်းရင်းသား လူမည်း လူငယ်တစ်ယောက်ပဲတဲ့။

အဲဒီလူကလာတဲ့အခါ အစိုးရပိုင်လင်ရိုဗာကားတစ်စီးနဲ့ လာတတ်တယ်လို့လည်းဆိုတယ်။ အဘိုးကြီး က ကျားသစ်တွေကိုခိုးသတ်တာကိုမိသွားရင် ဖမ်းဆီးထောင်ချခံရမှာ ကြောက်တယ်လို့ပြောတော့ လူငယ်က အဖမ်းမခံရဘူးလို့ အာမခံချက်လည်းပေးတယ်ဆိုပဲရှင့်။ ဒါတင်မကသေးဘူး။ အဘိုးကြီးကို ဟာရာရေမြို့တော်က ထိပ်သီးပုဂ္ဂိုလ်ကြီးတစ်ဦးက ကာကွယ်စောင့်ရှောက်ထားမယ် လို့လည်းပြော သေးတယ်တဲ့။ အဲဒီ ပုဂ္ဂိုလ်က တစ်ချိန်က တော်လှန်ရေးစစ်ပွဲအတွင်းက နာမယ်ကြီး စစ်ခေါင်းဆောင် တစ်ဦးဖြစ်ပြီး အခုတော့ ဇင်ဘာဘွေအစိုးရအဖွဲ့မှာ ဝန်ကြီးတစ်ဦးဖြစ်နေတဲ့အပြင် သူ့ကိုယ်ပိုင် စစ်တပ်တစ်ခုကိုလည်း ဖွဲ့စည်းကွပ်ကဲထားတယ်လို့လည်းဆိုတယ်"

ဤသို့ပြောပြီး ဆယ်လီသည် ခရိတ်အား ဖိုင်တွဲတစ်ခုကို ယူ၍ပြလေသည်။

ဖိုင်တွဲ၏အပေါ်ဆုံးစာရွက်တွင် ဇင်ဘာဘွေနိုင်ငံအစိုးရအဖွဲ့(ကက်ဘိနက်)ဝန်ကြီးများ အမည်စာရင်း အပြည့်အစုံ ဖော်ပြထားလေသည်။ စုစုပေါင်း ဝန်ကြီးနှစ်ဆယ့်ခြောက်ဦးရှိပြီး ယင်းတို့၏နာမည် နှင့်တကွ တာဝန်ယူထားသည့် ဝန်ကြီးဌာနများ၏စာရင်းကိုပါတွဲလျက် ဖော်ပြထားသည်။ ဆယ်လီ သည် ထိုအမည်စာရင်းကို ထောက်ပြရင်း ထပ်မံ၍ရှင်းပြလေသည်။

"ဒီစာရင်းမှာ နာမည်နှစ်ဆယ့်ခြောက်ခုပါပေမယ့် ကျွန်မတို့က အားလုံးကိုစဉ်းစားဖို့ မလိုဘူးရှင့်။ ရှန်ဂါနီ အဘိုးကြီးပြောတဲ့အတိုင်းဆိုရင် ဂိုဏ်းခေါင်းဆောင်ဝန်ကြီးက တော်လှန်ရေးတိုက်ပွဲမှာ ပါဝင်ခဲ့ တယ်လို့ဆိုတယ် မဟုတ်လား။ အခုဒီစာရင်းထဲပါတဲ့ ဝန်ကြီးတွေထဲမှာ တော်လှန်ရေးစစ်ပွဲ အတွင်းက လက်တွေ့ပါဝင်တိုက်ခိုက်သူဆိုလို့ လူနည်းနည်းပဲရှိတယ်။ ကျန်တဲ့ဝန်ကြီးတွေက လန်ဒန်မြို့က ဖိမ်ခံ ဟိုတယ်လို နေရာမျိုးမှာ သာနေရင်း တော်လှန်ရေးစစ်ပွဲ ပြီးသွားတာပဲ"

ဒုတိယ စာမျက်နှာတွင်ကားလူခြောက်ဦး၏ အမည်များကို ဖော်ပြထားသည်။

"အဲဒီ လူခြောက်ယောက်ကတော့ ဇင်ဘာဘွေတော်လှန်ရေးစစ်ပွဲအတွင်းက တပ်မှူးတွေအဖြစ်ပါဝင် တိုက်ခိုက် ခဲ့ကြတယ်"

ဆယ်လီက ရှင်းပြလျှင်ခရိတ်က

"ခြောက်ယောက်ဆိုတော့ များလွန်းတယ်။ ဒီထဲက ဘယ်သူဖြစ်နိုင်တယ်ဆိုတာ စဉ်းစားရမယ်" ဟုပြောရင်း ဒုတိယစာရွက်ကို ပြန်ကြည့်လိုက်ရာ လူခြောက်ဦး၏ နာမည်ထိပ်ဆုံး၌ ဗိုလ်ချုပ်ဖွန်ဂါဘီရာ၏အမည်ကိုတွေ့ရလေသည်။
"ကျွန်မတို့အနေနဲ့ ဒီနာမည်ခြောက်ခုထဲက စဉ်းစားရွေးထုတ်ဖို့ကမခက်ပါဘူးရှင့်။ မှောင်ခိုဂိုဏ်းကြီးကို ကြီးကြပ်ကွပ်ကဲတဲ့ ခေါင်းဆောင်ဟာ လက်ရှိဝန်ကြီးတစ်ဦးဖြစ်နေတဲ့အပြင် ကိုယ်ပိုင်သီးသန့် စစ်တပ်လည်း ဖွဲ့စည်းထားတယ်လို့လည်းဆိုတယ်။ ဒါဆိုရင် လက်ရှိဖဇင်ဘာဘွေအစိုးရကို ဆန့်ကျင်နေတဲ့ သူပုန်အုပ်စုရဲ့ စစ်တပ်ဖြစ်နိုင်တာပေါ့။ ကျွန်မသိသလောက် လက်ရှိအစိုးရကို ဆန့်ကျင်နေတဲ့ သူပုန်တွေက မာတာဘယ်လီတိုင်းရင်းသားတွေဖြစ်တယ်။ ဒီတော့ သူတို့ရဲ့ခေါင်းဆောင်ဟာလည်း မာတာဘယ်လီလူမျိုးပဲဖြစ်ရမယ်မဟုတ်လား" ဆယ်လီသည် ပြောပြောဆိုဆို ဖိုင်တွဲမှတတိယစာရွက်ကို လှန်ပြလေသည်။ ထိုစာရွက်အား အမည်တစ်ခုတည်းသာ ရေးထားလေသည်။

"တော်လှန်ရေးစစ်ပွဲတုန်းက ထူးထူးချွန်ချွန် အောင်မြင်ခဲ့တဲ့ တပ်မှူးတစ်ဦးက မာတာဘယ်လီ လူမျိုးလည်းဖြစ်တယ်။ အခုသူဟာ တိုးရစ္စခရီးသွားလာရေးဌာနဝန်ကြီးဖြစ်နေတယ်။ တောရိုင်းတိရစ္ဆာန်များ ထိန်းသိမ်း ကာကွယ်ရေး ဌာနကလည်း အဲဒီဝန်ကြီးဌာနလက်အောက်မှာ ရှိနေတယ်။ သေသေချာချာ စဉ်းစားကြည့်ရင် ကျွန်မကို အရက်သမားအဘိုးကြီး ပြောတာတွေနဲ့ ကိုက်ညီနေတယ်ရှင့်"

ခရိတ်သည် စာရွက်ပေါ်တွင် ရေးထားသောအမည်ကို အသံထွက်အောင်ဖတ်လိုက်သည်။

"တွန်ဂါတာ"
သူ၏ငယ်ပေါင်း မိတ်ဆွေရင်း တွန်ဂါတာဖြစ်နေ၍ ခရိတ်သည် ဆင်စိုးသတ်ဂိုဏ်း၏ ထိပ်သီးခေါင်းဆောင်ဟူ၍ ခက်နေလေသည်။ မဟုတ်ပါစေနှင့်ဟုလည်း စိတ်ထဲမှာကျိတ်၍ မျှော်လင့်မိသည်။
"ဒါပေမဲ့ကွာ တွန်ဂါတာဟာ ကျုပ်နဲ့အတူ တစ်ချိန်က တောရိုင်းတိရစ္ဆာန် ကာကွယ်စောင့်ရှောက်ရေး ဌာနမှာ အလုပ်လုပ်ခဲ့ဖူးတဲ့လူပဲ။ သူကကျုပ်လက်အောက်မှာ အလုပ်လုပ်ခဲ့တယ်"

ခရိတ်ကပြောနေစဉ် ဆယ်လီက ကြားဖြတ်လျက်

"ဟုတ်တယ်လေ၊ ဒါပေမဲ့ ရှေးလူကြီးများရဲ့ ဆိုရိုးစကားတစ်ခု ရှိတယ်မဟုတ်လားရှင့်။ အဖိုးတန်ရတနာတွေကို ကာကွယ်စောင့်ရှောက်ဖို့ တာဝန်ကျတဲ့လူတွေက အဲဒီရတနာတွေခိုးယူဖို့အခွင့်အရေး ပိုပြီးရှိတယ်ဆိုတဲ့စကားလေ" ဟုပြောလိုက်သည်။

"မင်းပြောတာမှန်ပါတယ်။ သို့သော်လည်း တွန်ဂါတာအနေနဲ့ ဘာဖြစ်လို့ ငွေကြေးအမြောက်အမြား လိုချင်တဲ့ လောဘထွက်မှာလဲ။ တိရစ္ဆာန်တွေ ခိုးသတ်တဲ့ဂိုဏ်းရဲ့ အကြီးအကဲဆိုရင် ဒေါ်လာငွေ သန်းချီပြီး ချမ်းသာကြွယ်ဝနေမှာဘဲ။ တွန်ဂါတာကရိုးရိုးကလေး နေတတ်တဲ့လူ ဖြစ်တယ်။ သူ့မှာ ကိုယ်ပိုင်အိမ်တို့ အဖိုးတန် မော်တော်ကားတို့လည်းမရှိတာ လူတိုင်းသိတယ်။ သူ့မှာကိုယ်ပိုင်မြေယာ တွေလည်း မရှိဘူး"

"ဒါတွေမရှိတာမှန်ပေမယ့် အဲဒါတွေထက် ပိုပြီးငွေကုန်ကြေးကျများတဲ့ ရည်မှန်းချက်တစ်ခု ရှိချင်ရှိနေ မှာပေ့ါ။ အဲဒါ ကတော့ နိုင်ငံရေးအာဏာ ရလိုမှုပဲ"

ခရိုတ် က အံ့အားသင့်ပြီး ငေးကြည့်နေမိစဉ် ဆယ်လီကပင် ဆက်ပြောပြန်သည်။

"ရှင်ပဲစဉ်းစားကြည့်လေ၊ နိုင်ငံရေးအာဏာ လိုချင်တဲ့လူဆိုရင် ကိုယ်ပိုင်သီးသန့် လက်နက်ကိုင် ဖွဲ့စည်းထားရမယ် မဟုတ်လား။ အဲဒီလက်နက်ကိုင်တပ်အတွင်း စရိတ်စက ငွေကြေးအမြောက် အမြားလိုမှာ သေချာတယ်"

ဆယ်လီပြောသည့်အတိုင်း တကယ်ပင်ဖြစ်နိုင်ကြောင်း ခရိုတ်ရင်ထဲမှ ရင်နင့်စွာနင့်ပင် ဆင်ခြင် သုံးသပ်မိလေသည်။ ကမ္ဘာ့ဘဏ် ဒုဥက္ကဋ္ဌ ဟင်နရီကလည်း ဇင်ဘာဘွေနိုင်ငံတွင် ဆိုဗီယက်တို့၏ လျှို့ဝှက်အားပေးကူညီမှုဖြင့် အာဏာသိမ်းရန် ကြံစည်မှုတစ်ခု ဖြစ်နိုင်ဖွယ်ရာ ရှိကြောင်းသတိပေး ပြောခဲ့သည်။ လက်တွေ့အားဖြင့်လည်း ဆိုဗီယက်တို့သည် ဇင်ဘာဘွေ တော်လှန်ရေးစစ်ပွဲအတွင်းက မျက်နာဖြူအစိုးရအား တိုက်ခိုက်ခဲ့ကြသော တိုင်းရင်းသား တော်လှန်ရေးအုပ်စုနှစ်စုအနက် မာတာ ဘယ်လီ လူမျိုးတို့၏အုပ်စုဘက်မှ အားပေးကူညီခဲ့ကြောင်း ခရိုတ်ကမှတ်မိလေသည်။

ထို့ကြောင့် အကယ်၍ ဆိုဗီယက်ရုရှတို့၏ ဇင်ဘာဘွေနိုင်ငံတွင် သူတို့သြဇာခံအစိုးရ အာဏာရရေး ကိုလျှို့ဝှက်စွာ အားပေးမည်ဆိုပါက ခေါင်းဆောင်အဖြစ် မာတာဘယ်လီလူမျိုးတစ်ဦးကိုသာရွေးချယ် ထောက်ခံမည် ဖြစ်ပေသည်။ သို့ဖြစ်လင့်ကစား ခရိုတ်သည် သူ၏မိတ်ဆွေ တွန်ဂါတာလိုလူက တိရစ္ဆာန်များ မတရားခိုးသတ်သည့် မှောင်ခိုဂိုဏ်းကြီးကို ကြီးကြပ်ကွပ်ကဲသူ ဖြစ်ပါမည်လောဟု သံသယ ဖြစ်မိလေသည်။ တွန်ဂါတာသည် ငယ်စဉ်က ခရစ်ယာန် သာသနာပြုကျောင်းတွင် ပညာ သင်ကြားခဲ့ရသဖြင့်ရည်မွန်ပြီး ကိုယ်ကျင့်တရား ကောင်းမွန်သူဖြစ်ကြောင်း ခရိုတ်ကောင်းစွာသိပေ သည်။ မျက်နာဖြူ အစိုးရလက်ထက်က တောရိုင်းတိရစ္ဆာန်များ ထိန်းသိမ်းကာကွယ်ရေးဌာနတွင် ခရိုတ်နှင့်အတူ အမှုထမ်းခဲ့စဉ်ကလည်း လုံးဝအပြစ်ဆိုစရာမရှိအောင် ရိုးသားဖြောင့်မတ်စွာအမှုထမ်း

ခဲ့သူလည်း ဖြစ်သည်။ စစ်ပွဲအတွင်းက ခရိတ်၏ခြေထောက်တွင် ပြင်းထန်စွာဒဏ်ရာရခဲ့စဉ်ကလည်း တွန်ဂါတာကပင် မိတ်ဆွေကောင်းပီသစွာ ကူညီစောင့်ရှောင့်ခဲ့သည်။

ယခုတွန်ဂါတာသည် နိုင်ငံရေးအာဏာရှူး တိရစ္ဆာန်ခိုးသတ်ဂိုဏ်း၏ ထိပ်သီးခေါင်းဆောင်ဖြစ်နေသည်ဆိုခြင်းမှာ ဖြစ်နိုင်ပါမည်လော။ ထို့ကြောင့် ခရိတ်သည် ဆယ်လီအား လှမ်းကြည့်လျက် "ဒီလူက ကျုပ်ရဲ့ မိတ်ဆွေပဲ" ဟုပြောလိုက်သည်။

"တစ်ချိန်ကတော့ ရှင့်မိတ်ဆွေ ဖြစ်ခဲ့တာ ဟုတ်ပါလိမ့်မယ်။ ဒါပေမဲ့အခုသူက ပြောင်းလဲသွားပြီရှင့်။ မကြာသေးခင်က ရှင်သူနဲ့သွားတွေ့တော့ ရှင့်ကိုရန်သူလို ဆက်ဆံလိုက်တယ် မဟုတ်လား၊ ရှင်ကိုယ်တိုင်ပဲ ကျွန်မကို ပြောပြခဲ့တယ်လေ"

ခရိတ်လည်း ဝန်ခံသည့်အနေဖြင့် ခေါင်းညိတ်လိုက်လေသည်။ တစ်ချိန်တည်မှာပင် သူတည်းခိုသည့်ဟိုတယ်သို့ ထောက်လှမ်းရေးအထူးရဲတပ်ဖွဲ့က ဝင်ရောက်ရှာဖွေသွားပုံကို သတိရမိသည်။ ဟိုတယ်မန်နေဂျာ၏ ပြောပြချက်အရ ယင်းသို့ရှာဖွေရခြင်းမှာ ထိပ်သီးပုဂ္ဂိုလ်ကြီးကြီးတစ်ဦး၏ ညွှန်ကြားချက်အရဟုလည်းဆိုသည်။
ဝန်ကြီးတွန်ဂါတာအနေဖြင့် မိမိသည်ကမ္ဘာ့ဘဏ်၏ရှေ့ငး(သူလျှို)တစ်ဦးဖြစ်ကြောင်း သံသယဖြစ်ဟန်တူသည်။ ဇင်ဘာဘွေနိုင်ငံတွင် သားရဲတိရစ္ဆာန်များ တရားမဝင် ခိုးသတ်ခြင်းကိစ္စ နိုင်ငံရေးအာဏာသိမ်းယူရန် လျှို့ဝှက်ကြံသည်မှုကိစ္စတို့ကို လာရောက်စုံစမ်းထောက်လှမ်းရန်တာဝန်ဖြင့် မိမိလာရောက်ခြင်းဖြစ်သည်ဟု သင်္ကာမကင်းဖြစ်ပုံရသည်။

ထို့ကြောင့်သာလျှင် ဝန်ကြီးတွန်ဂါတာသည် ဇင်ဘာဘွေနိုင်ငံတွင် မြေယာဝယ်ပြီး အခြေစိုက် အလုပ်လုပ်ရန်ရည်ရွယ်ခြင်းကို ပြင်းပြင်းထန်ထန် ဆန့်ကျင်နှောက်ယှက်ခြင်း ဖြစ်တန်ရာသည်။

"အင်း... ကျုပ်စိတ်ထဲတော့ ဘဝင်မကျသလို ဖြစ်မိတယ်။ ဒါပေမဲ့လည်း တကယ်ကတော့ မင်းပြောသလို ဖြစ်နိုင် ပါတယ်"

ခရိတ် က ဝန်ခံသလို ပြောလိုက်ရာ ဆယ်လီက

"ကျွန်မ တော့ သိပ်သေချာတယ်လို့ ထင်မိတယ်ရှင့်" ဟုပြန်ပြောလေသည်။

"ဒီတော့ မင်းက ဘာလုပ်မယ် စိတ်ကူးသလဲ"

"ကျွန်မကတော့ ဒီအထောက်အထားတွေယူပြီး ဗိုလ်ချုပ်ဖွန်ဂါဘီရာ ဆီကိုသွားမယ်"

"ဒီလိုဆိုရင် ဖွန်ဂါဘီရာက တွန်ဂါတာကို အပြုတ်တိုက်ချတော့မှာပဲ"

"တွန်ဂါတာက ကောင်းမှ မကောင်းဘဲရှင့်။ သူဟာတကယ့် လူဆိုးကြီးဖြစ်နေတယ်"

"သူက ကျုပ်ရဲ့ မိတ်ဆွေဖြစ်တယ်"

"အတိတ်ကာလ တစ်ချိန်ကသာ ရှင်ရဲ့မိတ်ဆွေ ဖြစ်ခဲ့တာပါ။ သူဟာဘယ်လောက် ပြောင်းလဲလာတတ်တယ်ဆိုတာ သိတယ်မဟုတ်လား။ နိုင်ငံရေးအာဏာနဲ့ပတ်သက်လာရင်လည်း လူတွေဟာ အကြီးအကျယ် ပြောင်းလဲလာနိုင်တယ်။ စိတ်ထားပြောင်းနိုင်တယ်။

"ဘာပဲဖြစ်ဖြစ်ကွာ၊ ကျုပ်အနေနဲ့ ဒီအဖြစ်ကို စက်ဆုပ်မိတယ်"

"ဒီမယ် ကျွန်မနဲ့အတူရှင်ပါ ဗိုလ်ချုပ်ဖွန်ဂါဘီရာဆီ လိုက်ခဲ့ပါလား။ ကျွန်မကတွန်ဂါတာအပေါ် စွပ်စွဲချက်တင်ပြတဲ့အခါ ရှင်ပါရှိနေစေချင်ပါတယ်။ ပြောပြောဆိုဆို ဆယ်လီသည် ခရိတ်၏ လက်တစ်ဖက်ကို အသာဆုပ်ကိုင်လိုက်သည်။

"ကျွန်မ ရှင့်အတွက် ဝမ်းနည်းပါတယ်ရှင်၊ တကယ်ပဲ စိတ်မကောင်းပါဘူး"

ဤသို့လည်း ဆယ်လီ က နှစ်သိမ့်သလို ပြောလိုက်သည်။

**အခန်း(၁၀)**

နောက်တစ်နေ့ နံနက်စောစောတွင် ဆယ်လီနှင့်ခရိတ်တို့သည် ဗိုလ်ချုပ်ဖွန်ဂါဘီရာ၏ သီးသန့်နေအိမ်သို့ သွားကြလေသည်။ အခန်းသို့ ခေါ်သွားလေသည်။ ထိုအခန်းမှာ (မျက်နှာဖြူလူမျိုးရှိစဉ်က) ဘီလီယက်ထိုးကစားသည့် အခန်းကြီးဖြစ်လေသည်။

အခန်း၏နံရံတစ်ခုတွင် ကြီးမားသောမြေပုံကြီး ချိတ်ဆွဲထားသည်။ စစ်ရုံးများမှ မြေပုံဖြစ်ပြီး နေရာအချို့တွင် အမှတ်အသားအဖြစ် ရောင်စုံအလံငယ်များ စိုက်ထားလေသည်။ ပြတင်းပေါက် အနီးတွင် စာရေးစားပွဲရှည်ကြီး တစ်ခုရှိပြီး စားပွဲပေါ်တွင် စာရွက်စာတမ်းများ၊ ပါလီမန် လွှတ်တော် အစီရင်ခံစာ မှတ်တမ်းများ ပါရှိလေသည်။ ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် ကျွန်သား စားပွဲငယ်တစ်ခုတွင် ထိုင်နေရာမှ ခရိတ်တို့ကိုမြင်လျှင် နှုတ်ဆက်ရန်ထိုင်ရာမှထလိုက်သည်။ သူ၏အိမ်တွင်းရုံးခန်း၌တစ်ယောက်တည်း ထိုင်အလုပ်လုပ်ခြင်း ဖြစ်သောကြောင့် သူသည်ဖိနပ်လည်းစီးမထား၊ အဝတ်အစားလည်း ဝတ်မထားဘဲ ခါးတွင် အဖြူရောင်ပိတ်စ(နံငယ်ပိုင်း)တစ်ခုသာ ပတ်ထားလေသည်။ သူ၏ခန္ဓာကိုယ်မှာ အလွန်တောင့်တင်းသန်မာပြီး ခွန်အားဗလ အထူးပြည့်စုံသူတစ်ယောက်၏ အသွင်ဆောင်နေသည်။

"ကဲလာကြပါ။ ကျုပ်က အဝတ်အစား ဝတ်မထားတာကိုတော့ ခွင့်လွှတ်ပါ။ ကျုပ်က အခုလို အာဖရိကတိုက်သားပီပီ နေရမှလွတ်လပ်ပြီး နေသာထိုင်သာရှိတယ်ဗျ"

ဖွန်ဂါဘီရာက ပြုံး၍ပြောရင်း ခရိတ်နှင့်ဆယ်လီတို့အား အခန်းတွင်းရှိ ခွေးခြေများတွင် ထိုင်ရန် ညွှန်ပြလိုက်သည်။
"ဒီမှာက ဧည့်သည်များများ လာလေ့မရှိလို့ ခွေးခြေပဲရှိတယ်။ ခင်ဗျားတို့ ထိုင်ချင်ရင် ကုလားထိုင် ယူခိုင်း လိုက်ပါ့မယ်"

"မလိုပါဘူးရှင့်၊ ဒီလိုပဲ ထိုင်ပါ့မယ်"

ဆယ်လီ က ပြောပြောဆိုဆို ခွေးချေတစ်လုံးတွင် ဝင်ထိုင်လိုက်သည်။

"ခင်ဗျားတို့ကို တွေ့ရတာ ဝမ်းသာပါတယ်။ ဒါပေမဲ့ ကျုပ်က ဆယ်နာရီတိတိမှာ ပါလီမန်လွှတ်တော် ကို သွားစရာ ရှိနေတယ်"

ဖွန်ဂါဘီရာ က ခရိတ်တို့အား ပြောစရာရှိလျှင် မြန်မြန်ပြောစေရန် အကြောင်းပြလိုက်သည်။

"ကျွန်မတို့ကလည်း အချိန်ဖြုန်းပြီး ဝေ့လည်ကြောင်ပတ် မပြောပါဘူး။ ဒီလိုပါ တောရိုင်းတိရစ္ဆာန် တွေကို မတရားခိုးသတ်နေတဲ့ မှောင်ခိုဂိုဏ်းကြီးရဲ့အဓိကခေါင်းဆောင်ဟာ ဘယ်သူဆိုတာ ကျွန်မတို့ ရိပ်မိပြီရှင့်"ဆယ်လီက လိုရင်းအချက်ကို တိုက်ရိုက်ပင် ပြောချလိုက်ရာ ဗိုလ်ချုပ်ဖွန်ဂါဘီရာ ထိုင်မည် ပြုနေရာမှမထိုင်ဘဲ ရှေ့သို့တိုးလာပြီး အံ့အားသင့်ဟန်ဖြင့် လှမ်းကြည့်လိုက်သည်။

"ဒါဖြင့် ကျုပ်ကို ပြောပြစမ်းပါ"

ဤသို့ပြောသဖြင့် ဆယ်လီလည်း မည်သို့မည်ပုံ ကောက်ချက်ချ၍ မှောင်ခိုဂိုဏ်းခေါင်းဆောင် မည်သူ မည်ဝါ ဖြစ်ကြောင်း တွက်ချက်သိရပုံကို ပြောပြလိုက်လေသည်။ ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် ဘာမှ ဝင်မပြောဘဲ မျက်မှောင်ကြုတ်လျက် သေချာစွာ နားစိုက်ထောင် နေလေသည်။ ဆယ်လီက ဝန်ကြီး အဖွဲ့နာမည်စာရင်းမှ ခြောက်ဦးရွေးချယ်စဉ်းစားပုံ၊ နောက်ဆုံးတစ်ဦးတည်း၏ နာမည်သာကျန်သဖြင့် ထိုသူပင် ဖြစ်ရမည်ဟု ကောက်ချက်ချယူပုံ စသည်တို့ကိုပြော၍ အဆုံးသတ် လိုက်လေသည်။

"လက်စသတ်တော့ ကျုပ်တို့ရဲ့ ရဲဘော်ဝန်ကြီး တွန်ဂါတာ ဖြစ်နေတာကိုး"

ဖွန်ဂါဘီရာက ပါးစပ်မှ ရေရွတ်လိုက်ပြီးနောက် နံရံတွင် ချိတ်ဆွဲထားသော ဇင်ဘာဘွေ နိုင်ငံ၏ မြေပုံကြီးကို လှမ်းကြည့်လေသည်။

ခဏ မျှကြာလျှင် ဆယ်လီက "ဘယ်လို သဘောရလဲ ဗိုလ်ချုပ်" ဟုမေးလိုက်သည်။

"အခုခင်ဗျားတို့ပြောတာ ကြားလိုက်ရတော့ ကျုပ်အနေနဲ့ မီးသွေးခဲရဲရဲကို လက်နဲ့ကိုင်ရမလို ဖြစ်သွားတယ်။ ဒီမယ် ဆယ်လီ၊ အခု ကောက်ချက်ချယူတာဟာ ဝန်ကြီးတွန်ဂါတာက ခရိတ်ကို မချေမငံ ဆက်ဆံလိုက်ပုံကြောင့် ဆက်စပ်ပြီးကောက်ချက်ချယူတာများ ဖြစ်နေမလား"

"မဟုတ်ပါဘူးရှင့်"
ဆယ်လီက ပြောလိုက်ပြီးနောက် ဖွန်ဂါဘီရာသည် ခရိတ်ဘက်သို့ လှည့်၍

"ခင်ဗျား ကကော ဘယ်လို ထင်သလဲ" ဟုမေးလိုက်ပြန်သည်။

"သူကကျုပ်ရဲ့ မိတ်ဆွေလည်းဖြစ်တယ်။ ကျုပ်ကိုလည်း အများကြီး ကူညီခဲ့ဖူးတယ်"

"ဒါက တစ်ချိန် က ဖြစ်ခဲ့တာပါ။ အခုသူက ခင်ဗျားကို ရန်သူလို ဆက်ဆံတယ် မဟုတ်လား"

"ဒါပေမဲ့ ကျုပ်က အခုအထိ သူ့ကို ခင်မင်လေးစားစိတ် ရှိတုန်းပဲ"

"ဒါက ဟုတ်ပါပြီ၊ အခုတော့ ခင်ဗျား လေးစားတဲ့လူက"

"ဟုတ်ပါတယ်၊ဒီလူက အခုတော့ ဆယ်လီက ကောက်ချက်ချတဲ့အတိုင်း မှန်နေပုံရပါတယ်။"

ခရိတ်က စိတ်မကောင်းစွာနှင့်ပင် ဝန်ခံလိုက်ရသည်။ ဗိုလ်ချုပ် ဖွန်ဂါဘီရာသည် နံရံကပ် မြေပုံကြီး အနီးသို့လျှောက်သွားပြီး မြေပုံပေါ်၌ရောင်စုံ အလံကလေးများကို စိုက်ထားသည်ကို ကြည့်ရင်း ပြောလေသည်။
"ကျုပ်တို့ဇင်ဘာဘွေ နိုင်ငံကပေါက်ကွဲတော့မယ့်ဆဲဆဲ ယမ်းဘီလူး(မိုင်းပုံး)ကြီးတစ်ခုလိုဖြစ်နေတယ်။ မာတာဘယ်လီလူမျိုးတွေက ကျုပ်တို့အစိုးရကို ပြောင်တော်လှန်တော့မလို့ ပြင်ဆင်နေကြပြီ။ ဟောဒီ နေရာတွေကို ကြည့်"

(ဤနေရာတွင် ဖွန်ဂါဘီရာသည် မြေပုံမှ နေရာတချို့ကိုထောက်ပြရင်း ပြောသည်။)

"အဲဒီနေရာက တောတွေထဲမှာ မာတာဘယ်လီ တိုင်းရင်းသားတွေ လူစုရုံးနေကြပြီ။ ဒါကြောင့် ကျုပ်တို့လည်း ကြိုတင်ကာကွယ်တဲ့အနေနဲ့ သူတို့ရဲ့ခေါင်းဆောင်တွေကို အချိန်မီအရေးယူနေရ တယ်။ မာတာဘယ်လီလူမျိုးတို့ရဲ့ ထိပ်သီးနိုင်ငံရေးခေါင်းဆောင် နီကိုမိုဆိုရင် လုံးဝနိုင်ငံရေးလှုပ်ရှား မှုမလုပ်ရအောင် အတင်းအကျပ်အနားယူခိုင်းထားရတယ်။ ဝန်ကြီးအဖွဲ့ထဲက မာတာဘယ်လီဝန်ကြီး နှစ်ဦးကိုလည်း နိုင်ငံတော် သစ္စာဖောက်မှုနဲ့ ဖမ်းဆီးအရေးယူထားရတယ်။ အခုဆိုရင် ဝန်ကြီးအဖွဲ့ထဲ မှာ  မာတာဘယ်လီတိုင်းရင်းသားဆိုလို့ တွန်ဂါတာတစ်ဦးတည်းပဲကျန်တယ်။

ဒီလူတကယ်လည်း သြဇာရှိတယ်။ သူ့ကို မာတာဘယ်လီ လူမျိုးတွေသာမက တခြားတိုင်းရင်းသား များက လေးစားကြည်ညိုကြတယ်။ မာတာဘယ်လီ တိုင်းရင်းသားတွေကတော့ မပြောရဲတော့ တွန်ဂါတာကို သူတို့ရဲ့တစ်ဦးတည်း ကျန်တဲ့ခေါင်းဆောင်ကြီးလို့ ယူဆကြတယ်။ ဒါကြောင့်ကျုပ်တို့က သူ့ကိုသွားထိရမယ်ဆိုရင်" ဤတွင် ဆယ်လီက ကြားဖြတ်လျက် ဝင်ပြောလေသည်။

"ဘာလဲ၊ ဗိုလ်ချုပ်တို့က သူ့ကို ဘာမှမလုပ်ဘဲ လွှတ်ထားမှာလား။ ဒီလိုဆိုရင် ရှင်တို့ရဲ့ နိုင်ငံတော် ကြီးက ဘယ်လိုဖြစ်သွားမလဲ။ တရားဥပဒေကလည်း သာမန်လူတွေ အတွက်သာဖြစ်ပြီး ထိပ်သီး ပုဂ္ဂိုလ်တွေကျတော့"
ဆယ်လီပြော၍ မဆုံးသေးမီ ဖွန်ဂါဘီရာသည် စိတ်တိုလာဟန်ဖြင့်

"မင်း တိတ်တိတ်နေစမ်းပါ " ဟုခပ်ထန်ထန် ပြောလိုက်သည်။

ဆယ်လီ သည် ဆက်မပြောတော့ဘဲ အသာငြိမ်နေလိုက်သည်။

သည်တော့မှ ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် သူ၏စားပွဲသို့ ပြန်လျှောက်သွားပြီး ထိုင်၍စကား ပြောလေ သည်။ ကျုပ်ပြောနေတာက ဒီကိစ္စမှာ ရှေ့လောတကြီး အရေးယူလိုက်ရင် ဖြစ်ပေါ်လာနိုင်တဲ့ ဂယက် ရိုက်မှု အကျိုးသက်ရောက်မှုတွေကို ရှင်းပြနေတာပါ။ ဝန်ကြီးတွန်ဂါတာကို အရေးယူ ဖမ်းဆီးလိုက် တာနဲ့ ဇင်ဘာဘွေနိုင်ငံမှာ အကြီးအကျယ် ပြည်တွင်းစစ်ပွဲကြီးဖြစ်ပြီး တစ်နိုင်ငံလုံး မီးဟုန်းဟုန်း တောက်သွားနိုင်တယ်။ ဒီလို ပြောလိုက်တာနဲ့ ကျုပ်က ဘာမှအရေးမယူဘဲ ထိုင်ကြည့်နေမယ်လို့ မထင်လိုက်ပါနဲ့ ဒီလိုဆိုလိုတာ မဟုတ်ဘူး။ ဒါပေမဲ့ ခိုင်လုံတဲ့ အထောက်အထားမရှိဘဲ ကျုပ်က ဘာမှမလုပ်နိုင်ဘူးလို့ ဆိုလိုတယ်။ ပြီးတော့ ဘယ်ဘက်မှမလိုက်တဲ့ ကြားနေပုဂ္ဂိုလ်တွေရဲ့ ထွက်ဆို ချက် သက်သေခံချက်တွေလည်း လိုအပ်တယ်"

ဤသို့ပြောစဉ် သူသည် အခန်းနံရံရှိ မြေပုံကြီးကို ကြည့်မြဲကြည့်နေသည်။

"အခုတောင်မှကမ္ဘာက ကျုပ်တို့ဟာလူနည်းစုမာတာဘယ်လီ တိုင်းရင်းသားလူမျိုးတွေအပေါ်မတရား ဖိနှိပ်နေတယ်လို့ စွပ်စွဲနေကြတယ်။ တကယ်တော့ကျုပ်တို့က တိုင်းပြည်ငြိမ်ဝပ်ပိပြားရေးနှင့်တရားဥပဒေစိုးမိုးရေးအတွက် ကြိုးစားနေတာသာဖြစ်တယ်။ စစ်တိုက်ဝါသနာပါတဲ့ မာတာဘယ်လီ လူမျိုးတွေနဲ့ နားလည်မှုရအောင် စေ့စပ်ညှိနှိုင်းရေးအတွက် အထောက်အကူပြုနိုင်မယ့်လူဆိုလို့ တွန်ဂါတာတစ်ဦးတည်းပဲရှိတယ်။ ဒါကြောင့် ကျုပ်တို့အနေနဲ့ သူ့တို့အကြောင်းမခိုင်လုံဘဲ ပေါ့ပေါ့တန်တန်သဘောထားပြီး ချေမှုန်းပစ်တာမျိုး မလုပ်နိုင်ဘူး"

ဖွန်ဂါဘီရာက စကားကို ခေတ္တဖြတ်ထားလိုက်စဉ် ဆယ်လီက ဝင်ပြောလေသည်။

"ဗိုလ်ချုပ်ရှင့်၊ ကျွန်မပြောမပြရသေးတဲ့ အချက်တစ်ခု ရှိပါတယ်။ ဒါကိုကျွန်မနဲ့ ခရိတ်တို့က ဆွေးနွေးပြီးကြပါပြီ၊ တကယ်လို့ တွန်ဂါတာဟာ မှောင်ခိုတိစ္ဆာန် သတ်ဖြတ်ရေးဂိုဏ်းရဲ့ ထိပ်သီးခေါင်းဆောင်ဖြစ်ရိုးမှန်ရင် သူဟာ အဲဒီကရတာတဲ့ငွေတွေကို တခြားတစ်နေရာမှာ လျှို့ဝှက်အသုံးချနေရတာဖြစ်ရမယ်။ အမြင်အားဖြင့်တော့ သူဟာငွေကို ရေလိုသုံးဖြုန်းနေတာ မဟုတ်ပါဘူး၊ သို့သော်လည်း သူဟာမာတာဘယ်လီတိုင်းရင်းသားပြောက်ကျားတွေနဲ့ အဆက်အသွယ်ရှိတာတော့ကျွန်မတို့သိထားတယ်။ ဤတွင် ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် သိသိသာသာ မျက်နှာထား တင်းမာလာသည်။

"တွန်ဂါတာဟာ တကယ်ပဲ မှောင်ခိုဂိုဏ်းရဲ့ခေါင်းဆောင်အမှန်ဖြစ်နေရင် ကျုပ်ကလုံးဝ မညှာမတာဘဲအရေးယူမယ်။ ဒါပေမဲ့ အဲဒီလိုအရေးယူတဲ့အခါ ကျုပ်အနေနဲ့ အလွန်ခိုင်လုံတဲ့ အထောက်အထားတွေလိုတယ်။ ဒါမှ အဲဒီအထောက်အထားတွေကို ကမ္ဘာကသိအောင်ပြနိုင်ပြီး သူလည်း ကျုပ်လက်တွင်းက လွတ်မြောက်မှာ မဟုတ်ဘူး"

"ဒီလိုဆိုရင် ဗိုလ်ချုပ်အနေနဲ့ အချိန်ဆွဲမနေဘဲ အမြန်ဆုံးလှုပ်ရှားမှ ဖြစ်လိမ့်မယ်" ဆယ်လီက အကြံပေးသလို ပြောလိုက်သည်။

ခရိတ်၏ ကိုယ်ပိုင်သင်္ဘော ဘာဝူကို ထုခွဲရောင်းချရန် စီစဉ်သောအခါ ပွဲစားလုပ်သူက သင်္ဘောရှိရာသို့ ကိုယ်တိုင်လာကြည့်ရင်း ဝမ်းသာစရာ သတင်းကောင်း ပြောလေသည်။

"ခင်ဗျားက ကံကောင်းတယ်လို့ ဆိုရမယ်။ ခင်ဗျားရောင်းဖို့ စိတ်ကူးတဲ့အချိန်က ဈေးတွေတက်နေတဲ့အချိန် ဖြစ်တယ်။ အခုတလော လူတွေက ဒီသင်္ဘောမျိုးတွေကို တော်တော် အဝယ်များနေကြတယ်"

ပွဲစားက ဤသို့ ဝမ်းသာအားရပြောသော်လည်း ခရိတ်သည် အထူးတလည် ဝမ်းမြောက်ခြင်းမဖြစ်မိချေ။ သူ့အနေဖြင့် ဇင်ဘာဘွေနိုင်ငံတွင် လုပ်ငန်းလုပ်ရန်ငွေလို၍ ရောင်းရခြင်းဖြစ်လင့်ကစား ခရိတ်သည် သူ၏ဘိုးအေကြီးကို အမှတ်တရ နာမည်ပေးထားသော ဘာဂူသင်္ဘောအပေါ် အလွန်သံယောဇဉ် ကြီးမားသဖြင့် ရောင်းချခါနီးတွင် နမြောသလို စိတ်မကောင်းသလို ဖြစ်နေမိလေသည်။

" ခင်ဗျား သင်္ဘောက အခြေအနေလည်း ကောင်းတယ်။ ခင်ဗျား သတ်မှတ်ထားတဲ့ဈေးနှုန်းကလည်း သင့်တော်တဲ့အတွက် ချက်ချင်း ရောင်းလို့ စွံမှာပဲ။ မနက်ဖြန်ပဲ ဝယ်သူတချို့ကို ကျုပ်ခေါ်လာခဲ့မယ်" သင်္ဘောပွဲစားက အားပါးတရ ပြောပြန်ရာ ခရိတ်က "သူတို့ လာရင် ကျုပ် မရှိတဲ့အချိန် လာပါစေ " ဟု ပြောလိုက်သည်။ သူ၏ စိတ်ထဲ ခံစားနေရပုံကို ပွဲစားကလည်း နားလည်သဘောပေါက်ပုံရလေသည်။ "ကောင်းပါပြီ မစ္စတာခရိတ်၊ ကျုပ် နားလည်မှု ရှိပါတယ် "

*

ခရိတ်သည် သူ၏စာပေဆိုင်ရာ ဧဂျင်း(ကိုယ်စားလှယ်)အက်ရှီထံသို့ တယ်လီဖုန်းဆက်၍ ယခုရေးနေဆဲ စာမူအတွက် ငွေကြိုတင်တောင်းပေးရန် ပြောသောအခါ အက်ရှီက ခရိတ်၏လုပ်ငန်းစီမံကိန်းကို သဘောကျပုံမရချေ။ သို့သော် အာဖရိကတိုက်တွင် ခရိတ်က ရေးသားပြီးစီးနေသော ပထမဆုံးအခန်းသုံးခန်း စာမူကိုရယူရန် ဘာဂူသင်္ဘောသို့ လူတစ်ယောက် လွှတ်လိုက်လေသည်။ အက်ရှီနှင့် အစီအစဉ်ပြုလုပ်ပြီးနောက် ခရိတ်သည် ကမ္ဘာ့ဘဏ် ဒုဥက္ကဋ္ဌ ဟင်နရီနှင့်အတူ နေ့လယ်စာသွားစားလေသည်။

" ဟဲလို ခရိတ်၊ မတွေ့ရတာကြာလို့ အခုပြန်တွေ့ရတာ ဝမ်းသာသဗျာ "

ဟင်နရီ က ဝမ်းသာအားရ ဆီးကြိုနှုတ်ဆက်ပြီးနောက် ...

" နေဦးဗျ၊ ဘာမှ စကားမပြောခင် အရင်ဆုံး စားသောက်စရာတွေ မှာလိုက်ကြရအောင် "

ဟုဆိုကာ  အကောင်းဆုံး ယမကာအရက်တစ်ပုလင်းနှင့် စားစရာများကို မှာယူလိုက်လေသည်။ ယမကာတစ်ခွက်စီငှဲ့၍ သောက်နေကြတော့မှ ဟင်နရီက စတင်စကားပြောလေသည်။

" ကိုင်း ၊ ဗိုလ်ချုပ် ဖွန်ဂါဘီရာဆိုတဲ့လူအကြောင်း ခင်ဗျား ဘယ်လိုမြင်တယ်ဆိုတာ ပြောစမ်းပါ "

" ကျုပ်ရဲ့ အစီရင်ခံစာထဲမှာ အပြည့်အစုံရေးထားတာပဲ၊ ခင်ဗျား ဖတ်မကြည့်ဘူးလား " ခရိတ်က ပြန်ပြော လိုက်သည်။

" ကျုပ် ဖတ်ပြီးပါပြီ။ ဒါပေမဲ့ ခင်ဗျား ကိုယ်တိုင် ပြောတာကို နားထောင်ချင်သေးတယ်။ တစ်ခါတလေကျတော့ စကားပြောရင်းနဲ့ အစီရင်ခံစာထဲမပါတဲ့ အချက်အလက်တချို့ ထွက်ပေါ်လာတတ်တယ်"

" ကောင်းပြီ၊ ကျုပ် ပြောပါမယ်။ ဖွန်ဂါဘီရာဟာ ခေတ်ပညာတတ် ရည်ရည်မွန်မွန် လူတစ်ယောက်ပါပဲ။ အင်္ဂလိပ်စကားကိုလည်း ကျွမ်းကျင်တယ်။ စကားပြောရင်တောင် အာဖရိကတိုက်သား လေသံနည်းနည်းဝဲနေတာကလွဲလို့ ရေရေလည်လည် ပြောနိုင်တယ်။ စစ်ဝတ်စုံ ယူနီဖောင်း ဝတ်ထားလိုက်ရင် ဗြိတိသျှစစ်တပ်က အရာရှိကြီးတစ်ယောက်အသွင် ဖြစ်နေတယ်။

အရပ်ဝတ်အရပ်စား ဝတ်လိုက်ရင်လည်း ရုပ်မြင်သံကြား (တီဗီ) ဇာတ်လမ်းထဲက ရုပ်ရှင်မင်းသားတစ်ယောက်လားလို့ထင်ရတယ်။ ဒါပေမဲ့တိုင်းရင်းသားဝတ်စုံ ဝတ်လိုက်ရင်တော့ တကယ့်အာဖရိကတိုင်းရင်းသားအသွင် ဘွင်းဘွင်းပေါ်နေတယ်။ အဲဒီအချက်ကို ကျုပ်တို့ကမေ့မထားဖို့လိုတယ်။ ဖွန်ဂါဘီရာဟာဘယ်လိုပဲခေတ်ပညာတတ်တစ်ယောက်ဖြစ်ပေမဲ့အာဖရိကတိုင်းရင်းသားတစ်ယောက်ဖြစ်တယ်ဆိုတာကို အမြဲသတိရနေဖို့ လိုတယ်။ ဒါကြောင့် သူ့မှာ အာဖရိက တိုင်းရင်းသားတို့ရဲ့ ရိုးရာဓလေ့နဲ့ အတွေးအခေါ်တွေ ရှိတယ်ဆိုတာ ကျုပ်တို့မေ့မထားဖို့ အရေးကြီးတယ် "

" ဟုတ်ပြီ၊ အဲဒါမျိုး ကျုပ်က ဆိုလိုတာပေါ့။ အခု ခင်ဗျား ပြောတဲ့အချက်ဆိုရင် အစီရင်ခံစာထဲမှာ မပါဘူး။
ဒါလည်း အရေးကြီးတာပဲ။ ကဲ ဆက်ပြောပါဦး " " ခင်ဗျားတို့ ကျုပ်တို့ အနောက်နိုင်ငံသားတွေအနေနဲ့ အာဖရိကတိုင်းရင်းသားတွေအပေါ် ထင်မြင်ယူဆချက်က မှားနေတယ်။ ကျုပ်တို့က သူတို့ဟာပျင်းရိတယ်။ လှုပ်ရှားထကြွမှုမရှိဘူးလို့ အထင်သေးကြတယ်။ တကယ်တော့ ဒီလိုမဟုတ်ဘူးဗျ။ အာဖရိကတိုက်သားတွေဟာ သွက်သွက်လက်လက် မရှိတာ၊ လှုပ်ရှားရာမှာ အထနှေးတာ အကြောင်းရှိတယ်။ သူတို့က လှုပ်ရှားမှုတစ်ခု လုပ်တော့မယ်ဆိုရင် စိတ်ထဲကလေးလေးနက်နက်စဉ်းစားလေ့ရှိတယ်။ ပြီးတော့မှ လက်တွေ့ထလုပ်တယ်။ ဒါဟာ ရိုးတယ် အတယ် ပွင့်လင်းတယ်လို့ ယူဆတယ်။ သို့သော်လည်းအမှန်က သူတို့ဟာအလွန်လျှို့ဝှက်တတ်တဲ့လူတွေဖြစ်တယ်။ စိတ်မှတ်လည်းကြီးတယ်။တုံ့ပြန်ကလဲ့စားချေလိုတဲ့စိတ် ပြင်းထန်တယ်။ ပုဂ္ဂိုလ်ချင်း သို့မဟုတ် လူမျိုးအုပ်စုချင်း ပဋိပက္ခဖြစ်ပြီဆိုရင် အဲဒီရန်စဟာ တော်တော်နဲ့ မငြိမ်းတော့ဘူး။ သားစဉ်မြေးဆက် သဲသဲမဲမဲ ဆက်တိုက်ကြ၊ သတ်ကြ၊ ဖြတ်ကြလုပ်လေ့ရှိတယ်။ ဒီနေရာမှာ သူတို့ဟာ အီတလီက ဆီစလီကျွန်းသားတွေနဲ့ တော်တော်တူတယ် "

ခရိတ်က ဤသို့ပြောနေစဉ် ကမ္ဘာ့ဘဏ် ဒု ဉက္ကဌ ဟင်နရီသည် စိတ်ပါဝင်စားစွာ ဂရုစိုက် နားထောင်နေပြီး ရံဖန်ရံခါ ကြားဖြတ်၍ မေးခွန်းတစ်ခုစ နှစ်ခုစ မေးလေသည်။ တစ်ကြိမ်တွင် သူက အောက်ပါအတိုင်း ကြားဖြတ်ပြောလေသည်။

" ကျုပ်အနေနဲ့ မရှင်းတာ တစ်ခုရှိတယ်။ ဇင်ဘာဘွေနိုင်ငံက မာတာဘယ်လီ၊ နဒီဘီလီ၊ ဆင်ဒီဘီလီဆိုတဲ့ ဝေါဟာရ တွေကို ကျုပ် နားမလည်ဘူးဗျ။ ခင်ဗျားရှင်းပြနိုင်သလား "

" ဟုတ်ကဲ့ ရှင်းပြနိုင်ပါတယ်။ ဥပမာ ပြင်သစ်လူမျိုးတစ်ဦးကို ခင်ဗျားတို့ ကျုပ်တို့က ဖရင့်ချ်မင်း (ပြင်သစ် အမျိုးသား)လို့ ခေါ်တယ် မဟုတ်လား။ အဲဒီပြင်သစ်လူမျိုး ကိုယ်တိုင်ကတော့ သူ့ကိုယ်သူ ဖရန်ဝေးလို့ခေါ်တယ်။ အလားတူပဲ ဇင်ဘာဘွေနိုင်ငံက မာတာဘယ်လီတိုင်းရင်းသားတွေက သူတို့ကိုယ်သူတို့ နဒီဘီလီလို့ခေါ်တယ်။ ကျုပ်တို့ကတော့ မာတာဘယ်လီ လို့ခေါ်တယ်။ နာမည်အခေါ်အဝေါ်ကွဲတာပဲရှိတယ်။ အမှန်ကတော့ အတူတူပဲ "

" သြော် ... ဒီလိုလား။ ပြောတဲ့ ဘာသာစကားကတော့ ဆင်ဒီဘီလီလို့ ခေါ်တယ်လား "

" ဟုတ်ပါတယ်။ စင်စစ်အားဖြင့် မာတာဘယ်လီဆိုတဲ့ ဝေါဟာရက ဗြိတိသျှတို့ရဲ့ ကိုလိုနီစနစ်လက်ထက် အသုံးများခဲ့တဲ့အတွက် အခုဇင်ဘာဘွေနိုင်ငံ လွတ်လပ်တဲ့အခါ အဲဒီစကားလုံးကို ကိုလိုနီနယ်ချဲ့စနစ်ရဲ့ အမွေအနှစ်လို့ ယူဆကြတယ် "

သို့နှင့်ပင် သူတို့နှစ်ဦးသည် ဇင်ဘာဘွေနိုင်ငံအကြောင်းကို ပြည့်ပြည့်စုံစုံ ဆွေးနွေးပြောဆိုနေကြရာ စကားပြောကောင်းနေသဖြင့် သူတို့ထိုင်စားနေသည့် စားသောက်ဆိုင်အတွင်း လူများကုန်သလောက်ဖြစ်သွားကာ သူတို့ချည်းကျန်ရစ်ကြောင်းတွေ့ရတော့မှ အချိန်မည်မျှကုန်သွားကြောင်း သိလိုက်ရသည်။ ခရိတ်သည် စကားဖြတ်လိုက်တော့မှ ဖြစ်ချေတော့မည်ဟု ဆုံးဖြတ်လိုက်သည်။

" ကျုပ်ဆိုလိုတဲ့ အဓိကအချက်ကိုပဲ ပြောပါမယ်။ အာဖရိကတိုက်မှာ ကိုလိုနီဝါဒက ဆိတ်သုဉ်းသွားပြီဖြစ်တယ်။ အဲဒီစနစ်ကအမွေအနှစ်အဖြစ် လူ့ကျင့်ဝတ်တွေ အတွေးအခေါ်တွေ ထားရှိသင့်တဲ့ စည်းကမ်းတွေကိုလည်း ချန်ထားပစ်ခဲ့တယ်။ ဒါပေမဲ့ အာဖရိကတိုက်ကြီးက ကိုလိုနီစနစ်ရဲ့ အမွေအနှစ်မှန်သမျှကိုပယ်ချပြီး သူတို့ရဲ့ ရိုးရာဓလေ့နဲ့ အတွေးအခေါ်တွေအတိုင်း ပြန်သွားကြလိမ့်မယ်"

" ဒါလည်း တစ်မျိုးကောင်းတာပဲ။ သူတို့ရဲ့ ရိုးရာ လူနေမှုစနစ်အတိုင်း သွားတာကမှ သူတို့တွေ စိတ်ချမ်းသာမှု ရနိုင်လိမ့်မယ်ထင်တယ်။ ကိုင်း ... မစ္စတာခရိတ်၊ ခင်ဗျားက အခု လေ့လာခဲ့တာ အလွန်

ပြည့်စုံပါတယ်။ ခင်ဗျားကိုကျုပ်တို့ပေးရတဲ့ လစာငွေနဲ့ထိုက်တန်အောင် အလုပ်လုပ်ခဲ့တာပဲ။ ခင်ဗျားကို ကျုပ်တို့ရဲ့ကွင်းဆင်းအရာရှိ(ဧဂျင်း)တစ်ယောက်အဖြစ်အလွန်ထူးချွန်တဲ့လူအဖြစ်လည်းသတ်မှတ်ပါတယ်။ ဒါထက် ခင်ဗျားက အာဖရိကကိုဘယ်တော့လောက် ပြန်သွားမှာလဲ "

" အမြန်ဆုံး ပြန်မှာပဲ။ ကျုပ်က အခု နယူးယောက်မြို့ကိုလာတာဟာ ရစရာရှိတဲ့ငွေယူဖို့ လာခဲ့တာပဲ " ခရိတ်က ပြောလိုက်လျှင် ဟင်နရီသည် သဘောကျဟန်ဖြင့် ရယ်မောလိုက်သည်။

" ဟုတ်ပါ့ဗျာ၊ ခင်ဗျား လိုချင်တာကို အရိပ်အမြွတ်ပြောရုံနဲ့ မရိပ်မိတာ ကျုပ်အနေနဲ့ တော်တော်ထုံအတဲ့ လူတစ်ယောက်ဖြစ်နေပြီ"

ပြောပြောဆိုဆို ဟင်နရီသည် စားပွဲထိုးအားခေါ်၍ ကျသင့်ငွေကို ရှင်းပေးလိုက်ပြီးနောက် ထိုင်ရာမှ ထလိုက်သည်။

" ကိုင်း ... ကျုပ်တို့သွားကြမယ်။ ဟိုမှာ ကျုပ်တို့ရဲ့ ရှေ့နေက စာရွက်စာတမ်းတွေနဲ့ အသင့်စောင့်နေမယ်။ ခင်ဗျားက လက်မှတ်ထိုးပြီးရင် ခင်ဗျားအနေနဲ့ ဒေါ်လာငွေ သိန်းငါးဆယ်အထိ ထုတ်ယူနိုင်အောင် ကျုပ်က စီစဉ်ပေးပါမယ် "

ထို့နောက် နှစ်ယောက်သား မော်တော်ကားဖြင့်သွားကြရာ ကားတွင်း၌ခေတ်မီလေအေးစက်တပ်ဆင်ထားသဖြင့် လုံးဝမပူအိုက်ဘဲ အေးနေသည်ကို ခရိတ်က သတိပြုမိလေသည်။ ကျွမ်းကျင်သော ဒုဉက္ကဋ္ဌ ဟင်နရီသည် ခရိတ်၏ အစီရင်ခံစာထဲမှ အချက်တချို့ထပ်မံ၍ ရှင်းပြခိုင်းလေသည်။

" နေပါဦးဗျ၊ တောရိုင်းတိရစ္ဆာန်တွေကို မတရား ခိုးသတ်နေတဲ့ မှောင်ခိုဂိုဏ်းရဲ့ အကြီးအကဲ ဘယ်သူဘယ်ဝါဖြစ်တယ်ဆိုတာ ဆယ်လီကကောက်ချက်ချယူပုံကို ထပ်ပြီးအကျယ်ရှင်းပြပါဦး"

" ဒါတော့ သိပ်ရှည်ရှည်ဝေးဝေး ရှင်းပြစရာလိုမယ် မထင်ပါဘူး။ ဆယ်လီကို သတင်းပေးတဲ့ အရက်သမား အဘိုးကြီး ပြောပြချက်အရဆိုရင် မှောင်ခိုဂိုဏ်းရဲ့ အဓိကခေါင်းဆောင်ဟာ တခြားလူ ဖြစ်နိုင်စရာမရှိဘူးလို့ ကျုပ်ကိုယ်တိုင်ကလည်း ကောက်ချက်ချမိတယ်"

ခရိတ်က ပြန်ပြောလိုက်ရာ ဟင်နရီသည် ခေတ္တ စဉ်းစားနေပြီးနောက် -

" ဒါထက် ဗိုလ်ချုပ် ဖွန်ဂါဘီရာက ချက်ချင်း အရေးမယူချင်တာကို ခင်ဗျား ဘယ်လို သဘောရသလဲ " ဟု မေးပြန်သည်။

" ဖွန်ဂါဘီရာ က အာဖရိကတိုင်းရင်းသားတစ်ယောက်ဖြစ်ပေမယ့် ဆင်ခြင်ဉာဏ် အမြော်အမြင်ရှိသူ ဖြစ်တယ်။ သူ့အနေနဲ့ ရှေ့လောတကြီးလုပ်တာ မကောင်းဘူးလို့ ယူဆပုံရတယ်။ သူဟာ အချိန်ယူ စဉ်းစားပြီးမှ အကြံပိုင်တဲ့ မုဆိုးလို သားကောင်ကို အပိုင်မိအောင် ပိုက်ကွန် သို့မဟုတ် ထောင် ချောက်ကို သေသေချာချာ ဆင်ပြီးတော့မှ လုပ်မယ့် လူစားမျိုးဖြစ်တယ်။ အခုသာ သူက အထနှေး နေပေမယ့် တကယ်တမ်း လှုပ်ရှားပြီဆိုရင် ကျုပ်တို့အားလုံး အံ့သြလောက်အောင် လျင်မြန်သွက် လက်ပြီး ခပ်ကြမ်းကြမ်း လှုပ်ရှားမှာ သေချာပါတယ် "

" ကောင်းပြီ၊ ခင်ဗျားအနေနဲ့ ဗိုလ်ချုပ်ဖွန်ဂါဘီရာကို လိုအပ်သလို အကူအညီ ပေးစေချင်တယ်။ သူနဲ့ အပြည့်အဝ ပူးပေါင်းကူညီဆောင်ရွက်ပါ။ ဒါဟာ ကျုပ်တို့ရဲ့ ဆန္ဒပဲ "

" ကျုပ်ဟာ တွန်ဂါတာနဲ့ ခင်မင်ရင်းနှီးတဲ့ မိတ်ဆွေဆိုတာကော ခင်ဗျား သိပါသလား "

" ဘာလဲ၊ ခင်ဗျားက မိတ်ဆွေကောင်း တွန်ဂါတာကို ဆန့်ကျင်ပြီး အရေးယူရမှာကို ဝန်လေး နေလို့လား "

" ဒီလိုတော့ မဟုတ်ပါဘူး။ တွန်ဂါတာသာ တကယ်အပြစ်ရှိရင် ကျုပ်က အားနာစရာ မရှိပါဘူး "

" ဟုတ်ပြီ၊ အခုအချိန်အထိ ခင်ဗျား လှုပ်ရှား ဆောင်ရွက်ခဲ့တာကို ကျုပ်တို့ ကွန်မ္မာ့ဘဏ် ဘုတ်အဖွဲ့က အလွန်ကျေနပ် သဘောကျနေကြတယ်။ ခင်ဗျားရဲ့လစာငွေကိုလည်း တစ်နှစ်ကို ဒေါ်လာငွေ ခြောက်သောင်းအထိ တိုးမြှင့်ပေးဖို့ ဘုတ်အဖွဲ့ကကျုပ်ကိုညွှန်ကြားထားတယ် "

ဟင်နရီ၏ စကားအဆုံးတွင် ခရိတ်က ပြုံးဖြဲဖြဲနှင့်

" ဟုတ်လား၊ ဒီလိုဆိုရင် ဟန်ကျတာပဲ။ ကျုပ်က ချေးယူတဲ့ ဒေါ်လာငွေ သိန်းငါးဆယ်အပေါ် ကျသင့်တဲ့ အတိုးငွေပေးရာမှာ အထောက်အကူဖြစ်တာပေါ့ဗျ" ဟဲ ဟဲ ဟုပြောလိုက်သည်။

*

ခရိတ်၏ကိုယ်ပိုင်သင်္ဘော ဆိုက်ကပ်ထားရာ ဆိပ်ကမ်းသို့ မော်တော်ကား ဆိုက်ရောက်ချိန်တွင် နေရောင်ပင် မပျောက်သေးချေ။ ခရိတ်သည် သင်္ဘောပေါ်သို့ တက်လိုက်သည်နှင့် ဦးပိုင်းတွင် ထိုင်နေသူကိုမြင်ပြီး အံ့အားသင့်သွား မိလေသည်။ ထိုလူမှာ သူ၏စာပေရေးရာဂျေင်း(ကိုယ်စား လှယ်) အက်ရှီဆိုသူပင်ဖြစ်သည်။

" ဟဲလို အက်ရှီ၊ ဘယ်လိုလဲဗျ၊ ကျုပ်ဖြင့် ခင်ဗျားဒီကို လာလိမ့်မယ်လို့ လုံးဝ မမျှော်လင့်မိဘူး "

" ကျုပ်ကလည်း ခင်ဗျားနဲ့ တွေ့လို့ မဖြစ်တဲ့အတွက် လာခဲ့တာပဲ " အက်ရှီက ပြန်ပြောလိုက်သည်။

" ခင်ဗျားကတော့ စာရေးဆရာတွေအနေနဲ့ တကယ် အားကိုးလောက်တဲ့ ကိုယ်စားလှယ်ကြီးပါပဲ။ ကျုပ်မှာ အရေးတကြီး လိုအပ်လာပြီဆိုရင် ခင်ဗျားကချက်ချင်း ပြေးလာတာပါပဲ "

ခရိုက်က အက်ရှီ၏ မျက်နှာထားကို ကြည့်ပြီး သရော်သလို ငေါ်သလို ပြောလိုက်သော်လည်း အက်ရှီသည် ဂရုမစိုက်ဘဲ သူပြောချင်သည့်စကားကိုသာ ဆက်ပြောလေသည်။

" ခင်ဗျား ရဲ့ စာမူကို ကျုပ် ဖတ်ပြီးပြီ၊ ဖတ်ပြီးတော့ နောက်ထပ် တစ်ခေါက် ဖတ်ကြည့်သေးတယ်။ ပြီးတော့ စာမူကို ကျုပ်ရဲ့ မီးခံသေတ္တာထဲမှာ သော့ခတ်ထားလိုက်တယ်။ စာမူကကောင်းပါတယ်"

" ကျုပ်အနေနဲ့ ရေးခဲ့သမျှထဲမှာ ဒီစာမူက အကောင်းဆုံးပါပဲ "

" ဒါပေမဲ့ အခုမှ အခန်းသုံးခန်းပဲ ပြီးသေးတယ် "

" ဟုတ်တယ်လေ၊ ကျုပ်က အလွန်စိတ်ပါဝင်စားပြီး ကြိုးစားရေးနေပါတယ် "

" ရှင်းရှင်း ပြောရရင် ခင်ဗျားရဲ့စာမူကို သဘောမကျဘူး။ ဒီလိုပြောရတာလည်း စိတ်မကောင်းပါဘူး " အက်ရှီက တကယ်ပင် စိတ်မကောင်းဖြစ်ဟန်ဖြင့် ပြောလိုက်သည်။

"စာမူက အကြမ်းပဲ ရှိပါသေးတယ်။ နောက်ထပ် အချောကိုင်ရဦးမှာပါ။ ဒီမယ် အက်ရှီ၊ ဒီစာမူအတွက် ခင်ဗျားက ကျုပ်ကို ကြိုတင်ငွေ ထုတ်ယူနိုင်အောင် လုပ်ပေးမလား "

" ခင်ဗျားက ငွေဘယ်လောက် လိုသလဲ။ ဒေါ်လာ နှစ်သိန်း လောက်လား "

အက်ရှီ က ပြောလိုက်လျှင် ခရိုက်သည် အားတက် သွားမိလေသည်။

" ဒါဖြင့် ခင်ဗျားက တကယ်တော့ ကျုပ်စာမူကို သဘောကျတယ်ပေါ့ဟုတ်လား။ ဒါဖြင့် ဝမ်းသာတဲ့ အထိမ်းအမှတ် နဲ့ ယမကာ သောက်ကြရအောင်ဗျာ "

" ကောင်းတယ်၊ ယမကာ သောက်ရုံတင် မကဘူး။ ကျုပ်တို့ မူးအောင်သောက်ကြမယ် "

*

သို့နှင့်ပင်နှစ်ယောက်သား ယမကာအရက်ကို သောက်နေကြပြီးနောက်အတန်ကြာသော် ခရိုက်သည် ဖန်ခွက်ကိုကိုင်ရင်း စိတ်ကူးယဉ်နေမိလေရာ ဘေးနားမှအက်ရှီက စာမူအကြောင်း ပြောနေသည်ကို

ပင် ဂရုစိုက်နားမထောင်နိုင်တော့ချေ။ ခရိတ်၏စိတ်က အာဖရိကတိုက်ကြီးဆီသို့ ရောက်နေလေသည်။ တစ်ချိန်က သူ၏ဘိုးအေကြီး ပိုင်ဆိုင်ခဲ့သော ကင်းလင်းမွေးမြူရေးခြံကြီးနှင့်တကွ မြေယာများကိုလည်း သတိရ မြင်ယောင်နေမိသည်။ ဇမ်ဘေဇီမြစ်ရေများဟု သူကအမည်ပေး၍ တိုးရစ္စစခန်းပြုလုပ်ရန် ရည်ရွယ်ထားသော ဒေသ၏ရှုခင်းကိုလည်း မြင်ယောင်မိသည်။

ဤအတိုင်းဆိုလျှင် သူသည် မကြာမီကာလအတွင်း ကမ္ဘာပေါ်တွင် စိတ်ချမ်းသာပျော်ရွှင်ဆုံးလူတစ်ယောက်ဖြစ်လာတော့မည်ပါတကားဟုလည်း စိတ်ကူးယဉ်မိလေသည်။ သူယခု ရေးသားပြီးစီးနေသောစာအုပ်၏စာမူအခန်းသုံးခန်းကိုလည်း ဆယ်လီအား ဖတ်ကြည့်စေချင်သည့် ဆန္ဒဖြစ်ပေါ်လာသည်။ ခရိတ်သည် ဆယ်လီရှိရာ အာဖရိကတိုက်ကြီးကို အထူးပင် လွမ်းဆွတ်သတိရ အောက်မေ့နေမိလေသည်။

**အခန်း (၁၁)**

လေလံတင် ထုခွဲရောင်းချရေး လုပ်ငန်းလုပ်သူ ဒင်နီရယ်တွင် အသုံးပြုပြီးသား မော်တော်ယာဉ်ဟောင်းများလည်းရှိရာ ခရိတ်သည် ကားဟောင်းများအနက် တစ်ပတ်ရစ်လင်းရိုဗာကားတစ်စီးကို မျက်စိကျမိလေ သည်။

သေချာစွာစစ်ဆေးကြည့်ရှုသောအခါအင်ဂျင်စက်ကအစကား၏အခြေအနေမှာအတော်ပင်ကောင်းမွန်လျက်ရှိသေးသဖြင့် ခရိတ်သည်သူ၏ လုပ်ငန်းအတွက် သင့်တော်လိမ့်မည်ဟု ယူဆမိလေသည်။ ထို့ကြောင့်ပိုင်ရှင်ဒင်နီရယ်က အခြားကားတစ်စီးယူရန်တိုက်တွန်းပြောဆိုသည်ကို လက်မခံဘဲလင်းရိုဗာကားကိုပင် ဒေါ်လာငွေတစ်ထောင်ပေး၍ ဝယ်ယူလိုက်လေသည်။ အမှန်တော့ ထိုကား၏အခြေအနေအရ ဒေါ်လာငွေတစ်ထောင်ဆိုသည့် ဈေးနှုန်းကများနေသော်လည်း ခရိတ်ကကြာရှည် အချိန်မဖြုန်းလိုသဖြင့် ဈေးမဆစ်တော့ဘဲ ဝယ်ယူလိုက်ခြင်းဖြစ်လေသည်။

သူ၏ ကိုယ်ပိုင်သင်္ဘောဘာဂူကို ရောင်းချလိုက်ပြီဖြစ်၍ ငွေကြေးလည်းပြည့်စုံနေသဖြင့် လိုအပ်သောပစ္စည်းများအားလုံးဝယ်ယူကာ လင်းရိုဗာကားပေါ်တင်လိုက်လေသည်။ အဝတ်အစား အပြည့်ပါသောသားရေသေတ္တာတစ်လုံး၊ သူအလွန်နှစ်ခြိုက်၍ ဖတ်လေ့ရှိသောစာအုပ်များ၊ လုပ်ငန်းအတွက် လိုအပ်သောကိရိယာပစ္စည်းများ၊ သူတို့မိသားစု၏ ကိုယ်ရေးရာဇဝင် မှတ်တမ်းများပါရှိသော ဂျာနယ်စာအုပ်များစသည်တို့ကို ခရိတ်က လိုလေသေးမရှိ ရယူစုဆောင်းပြီး ကားပေါ်တင်ထားလိုက်ခြင်းပင်ဖြစ်သည်။ အဆိုပါ ဂျာနယ်ခေါ် မိသားစုမှတ်တမ်းများမှာ ခရိတ်အနေဖြင့် ဘိုးအေကြီးထံမှ ရရှိလိုက်

သောအမွေအနှစ်ပင်ဖြစ်သည်။

ဘိုးအေကြီး ဘာဝူ၏ ကျန်အမွေပစ္စည်းများ (ရိုလင်ကုမ္ပဏီပိုင် အစုရှယ်ယာများပါမကျန်)ကိုမူ သူ့သားအကြီးဆုံး(ခရိတ်၏ဦးလေး)ရရှိခဲ့သည်။ ဦးလေးဒေါက်ကလပ်ဆိုသူက နောက်ပိုင်းတွင်အစုရှယ်ယာများကို ရောင်းချပြီး ဩစတြေးလျနိုင်ငံသို့ ထွက်ခွာသွားခဲ့သည်။

ခရိတ်သည် ကုမ္ပဏီအစုရှယ်ယာစသော အမွေပစ္စည်းများကိုမရ၍ ဝမ်းမနည်းမိ။ မိသားစု မှတ်တမ်းဂျာနယ်များကို သူရရှိသည်ကိုပင်ကျေနပ်ဝမ်းမြောက်မိလေသည်။ မှတ်တမ်းဂျာနယ်များကို ဖတ်ရှုလေ့လာခြင်းအားဖြင့် ခရိတ်သူတို့မိသားစုမျိုးရိုး အဆက်အနွယ်ဇစ်မြစ်နှင့် တကွရိုဒီးရှား(ယခုဇင်ဘာဘွေ) နိုင်ငံစတင်ထူထောင်ခဲ့စဉ်က မိမိတို့မိသားစုပါဝင်ခဲ့သော အခန်းကဏ္ဍကြောင့် ဂုဏ်ယူကြွားဝင့်ဖွယ်ရာ အချက်အလက်များကိုလည်းသိရလေသည်။ ယင်း အချက်အလက်များကပင်လျှင် ယခု ခရိတ်ရေးနေသော စာအုပ်အတွက် အထောက်အကူပြုစေသည့် ကုန်ကြမ်းသဖွယ် ဖြစ်နေပေသည်။

မှတ်တမ်းဂျာနယ်များကို လေ့လာဖတ်ရှုရင်း ခရိတ်သည် ကင်းလင်းမွေးမြူရေးခြံကြီးသို့ သူကိုယ်တိုင် အကြိမ်ပေါင်းမရေနိုင်အောင် သွားလာခဲ့ပုံများကိုပါ ပြန်လည်သတိရမိလေသည်။ ဤသို့လျှင် အတိတ်ဖြစ်ရပ်များကို အထူးပင်သတိရရင်း ခရိတ်သည် လင်းရိုဗာကားဖြင့် မောင်းထွက်ခဲ့လေသည်။ သူ၏ ဘိုးအေကြီး ပိုင်ဆိုင်ခဲ့သောမြေယာမရောက်မီ တောင်ခြေတစ်နေရာ၌ အရပ်မြင့်မြင့်ပိန်ပိန်ပါးပါး လူတစ်ယောက် မျက်နှာချင်းဆိုင်ဘက်မှ လျှောက်လာသည်ကို တွေ့ရလေသည်။ ထိုလူ၏ ပခုံးတွင် ပောင်းနွမ်းသော စောင်တစ်ထည်ပတ်ခြုံထားပြီး ခါးတွင်မူပိတ်စ(နံငယ်ပိုင်း)တစ်ခုသာ ပတ်ဝတ်ထားလေသည်။ နားတွင်လည်း နားကွင်းများဆွဲထားသည်။ ထိုလူသည် ဆိတ်အုပ်တစ်အုပ်ကို မောင်းလာခြင်းဖြစ်၍ ဆိတ်ကျောင်းသားတစ်ဦးဖြစ်ဟန်တူသည်။ အသက်ကြီးကြီး အဘိုးကြီးတစ်ဦး ဖြစ်သည်။ တိုင်းရင်းသား လူမည်းတစ်ဦးဖြစ်၍ လူချင်းနီးလာချိန်တွင် ခရိတ်က တိုင်းရင်းသား ဘာသာစကားဖြင့် နှုတ်ဆက် လေသည်။

" အို နောင်တော်ကြီး၊ သင့်အား ကျွန်ုပ် နှုတ်ဆက်ပါ၏ "

ဤသို့ နှုတ်ဆက်လိုက်ရင်း အဘိုးကြီးအား သေချာစွာ ကြည့်ရာမကြာသေးမီက ကင်းလင်မွေးမြူရေးခြံနေရာတွင် မီးဖိုတစ်ခုရှေ့၌ တင်ပျဉ်ခွေထိုင်နေသူ အဘိုးကြီးပင်ဖြစ်ကြောင်း ခရိတ်က မှတ်မိလေသည်။

အဘိုးကြီးလည်း သူတို့၏တိုင်းရင်းသား ဘာသာစကားဖြင့် နှုတ်ဆက်လိုက်သည်ကို သဘောကျသွားလျက် သူ၏ ဝါကျင့်ကျင့်အရောင် သွားများပေါ်အောင် ပြုံးလိုက်သည်။

" သင့်အားလည်း ကျွန်ုပ်နှုတ်ဆက်ပါ၏ "

" မိုးဘယ်တော့ ရွာမှာလဲ နောင်တော်ကြီး "

ခရိတ်က မေးရင်း အသင့်ပါလာသော စီးကရက်တစ်ဘူးကို အဘိုးကြီးအား လှမ်းပေးလိုက်သည်။ ဤသို့လျှင် အာဖရိက တိုင်းရင်းသားတို့၏ ဓလေ့ထုံးစံအတိုင်း စကားပဏာမ ပျိုးပြီးနောက် ခရိတ်က " ခင်ဗျား နာမည် ဘယ်လိုခေါ်ပါသလဲ " ဟု မေးလိုက်သည်။

" ကျုပ်နာမည်က ရှာဒရပ်လို့ ခေါ်ပါတယ် "

" ဟုတ်ကဲ့၊ ရှာဒရပ်၊ ခင်ဗျားရဲ့ ဆိတ်တွေက ရောင်းဖို့လား "

ထိုမေးခွန်းကို ကြားသည်နှင့် အဘိုးကြီး၏မျက်လုံးများ စူးရှတောက်ပြောင်လာလေသည်။

" ဒီဆိတ်တွေက အလွန်ကောင်း အလွန်လှတယ်။ သူတို့ကို ရောင်းလိုက်ရင် ကျုပ်မှာ ကိုယ့်သားသမီးတွေနဲ့ ခွဲခွာရသလို ခံစားရမှာပဲ "

အဘိုးကြီးက အရောင်းအဝယ် ကျွမ်းကျင်သူ ကုန်သည်တစ်ဦးကဲ့သို့ သူ၏ကုန်ပစ္စည်းများကို အမွှမ်းတင်သလို ပြောလိုက်ခြင်းဖြစ်သည်။ ရှာဒရပ် အမည်ရှိ တိုင်းရင်းသား အဘိုးကြီးသည် ခေသူမဟုတ်။ ကင်းလင်းမြေယာတွင် ကျူးကျော် ဝင်ရောက်နေသူ တိုင်းရင်းသားအုပ်စု၏ ခေါင်းဆောင်နှင့်ပြောရေးဆိုခွင့်ရှိသူလူကြီးဖြစ်လေသည်။ အဘိုးကြီးမှတစ်ဆင့် ဆက်သွယ်ညှိနှိုင်းမည်ဆိုပါက ကျူးကျော်သူများကို မြေကွက်အတွင်းမှ ဖယ်ရှားနိုင်ရန် အလားအလာရှိပေသည်။

ယင်းသို့ စဉ်းစားမိသောအခါ ခရိတ်သည် စိတ်ထဲပေါ့ပါးသွားလေသည်။ သို့သော် မာတာဘယ်လီ တိုင်းရင်းသားတို့သည် ရောင်းဝယ်ရာ၌ ဈေးဆစ်ဝါသနာပါသဖြင့် ကျူးကျော်သူများ ဖယ်ရှားပေးခငွေကြေးပမာဏကို အတော်ပင် အချိန်ကြာကြာ ဆွေးနွေးယူရမည်ဖြစ်သည်။

ခရိတ်က သူ၏ဘိုးအေကြီး ပိုင်ဆိုင်ခဲ့သောမြေကွက်ရှိ လူနေအိမ်ဟောင်းကြီးကို ယာယီနေနိုင်ရန် စတင် ပြုပြင်လိုက်လေသည်။ ကျူးကျော်နေထိုင်သူ တိုင်းရင်းသားတို့၏ ဆိတ်အုပ်များကိုလည်း ဝယ်ယူရန် ကမ်းလှမ်းပြောဆိုရာ အတန်ကြာကြာ ဈေးနှုန်းကိုဆစ်ပြီး အရောင်းအဝယ် ထည့်သွား

လေသည်။ ဤနည်းအားဖြင့် ခရိတ်သည် နေ့ချင်းညချင်း ဆိတ်ကောင်ရေနှစ်ထောင်၏ ပိုင်ရှင်ဖြစ်လာလေသည်။ ဆိတ်ပိုင်ရှင် တိုင်းရင်းသားများကို ငွေသားလက်ငင်းပေးချေလိုက်ပြီးနောက် ဆိတ်အားလုံးကို လော်လီကားကြီးများဖြင့် တင်ဆောင်ကာ ဘူလာဝေယိုမြို့သို့ တင်ပို့ပြီး အပြတ်ရောင်းချပစ်လိုက်သည်။

ဤသို့လျှင် သူ လုပ်ငန်းလုပ်ရန် ရည်ရွယ်သော မြေကွက်မှ ဆိတ်အုပ်များကို ရှင်းပစ်လိုက်လေသည်။ ခရိတ်သည် ရာဒရပ်အမည်ရှိအဘိုးကြီးကိုပင် ချဉ်းကပ်၍ နွားမွေးမြူရေးလုပ်ငန်းအကြောင်း ဆွေးနွေးကြည့် ပြန်သည်။

" ခင်ဗျားအနေ နဲ့ နွားမွေးမြူရေးနဲ့ ပတ်သက်လို့ ဘာတွေ သိပါသလဲ "

"ဟာ၊ ကျုပ်က ငယ်စဉ်ကလေးဘဝကတည်းက မွေးမြူရေးခြံထဲမှာ ကြီးပြင်းလာတာမို့ သိပ်ကျွမ်းကျင်တာပေါ့။ ကျုပ်က ကိုယ်တိုင်နွားနို့ ညှစ်လာခဲ့တဲ့ ကလေးတစ်ယောက်ပဲ။ အဲဒီတုန်းက တစ်ခါတလေ နို့ညှစ်ရင်းက ကိုယ်တိုင် နွားမကြီးရဲ့ နို့ရည်ကို စို့ခဲ့သေးတယ်။ ဒါကြောင့် မွေးမြူရေးဆိုရင် ငယ်စဉ်ကတည်းက တစ်ခါတော့ ကျုပ်ရဲ့နွားအုပ်ကို ခြင်္သေ့တစ်ကောင်က ဝင်ဆွဲမယ်ကြံတော့ ကျုပ်က အဲဒီခြင်္သေ့ကို လှံနဲ့ထိုးသတ်ခဲ့တယ် "

" ဟင် ဟုတ်လား "

" ဟုတ်ပါတယ်။ ပြီးတော့ကျွန်တော့်အနေနဲ့ နွားမွေးမြူရေးလုပ်ငန်းအကြောင်း ကောင်းကောင်းကျွမ်းကျင်သူတစ်ယောက် လိုပါတယ်။ ဒီလူက နွားတွေအကြောင်းကောင်းကောင်း သိမှဖြစ်မယ်။ ဒါ့အပြင် အလုပ်သမား အဖြစ်ခိုင်းဖို့လူတွေလည်းလိုမယ် "

ခရိတ် ပြောလိုက်ပြီးနောက် အဘိုးကြီး ရာဒရပ်သည် အချိန်မဆိုင်းဘဲ လျင်မြန်စွာ လှုပ်ရှားကာ ခရိတ်လိုချင်သော လူများကို အမြန်ဆုံး ရှာပေးလေသည်။

မြေကွက်တွင် ကျူးကျော်နေထိုင်သူ တိုင်းရင်းသားထဲမှ လူနှစ်ဆယ် ရွေးခေါ်လိုက်သည်။ထိုနှစ်ဆယ်မှာ ခွန်အားဗလနင့်ပြည့်စုံသူ ကျန်းမာသန်စွမ်းသူများဖြစ်သည့်ပြင် အသက်အရွယ်အားဖြင့် မငယ်လွန်းမကြီးလွန်း သူများဖြစ်သည်။ ရာဒရပ်သည် ထိုလူများကို ယာယီပြင်ဆင်ထားသော အိမ်ရှေ့တွင် တန်းစီခိုင်းပြီးနောက် သူက ရှေ့မှ တပ်မှူးကြီးပမာရပ်လျက် ခပ်တည်တည် မိန့်ခွန်းပြောလေသည်။

" မင်းတို့အားလုံး ငါ့ကို ကောင်းကောင်းသိကြတယ် မဟုတ်လား။ ငါ့အဘိုးရဲ့ မိခင်ဟာ မာတာဘယ်လီ ဘုရင်ကြီး လိုတင်ဂူလာရဲ့ သမီးတော်ဖြစ်တယ်။ အဲဒါ ငါ့ရဲ့ မျိုးရိုးဇာတိ အဆက်အနွယ်ပဲ "

" အေး ... ဟီး ... အေး ... ဟီး "

မာတာဘယ်လီ တိုင်းရင်းသား နှစ်ဆယ်တို့က ဟစ်အော် ဩဘာပေးကြလေသည်။

အဘိုးကြီး ရှာဒရပ် လည်း အားရကျေနပ်ဟန်ဖြင့် ဆက်၍ ဟစ်အော်ကြွေးကြော်ပြန်သည်။

" ဒါဟာ မင်းမျိုးမင်းနွယ်က ဆင်းသက်လာတာဆိုတာ မင်းတို့ သိကြတယ်။ အခြေအနေအရ ငါဟာ အခုလိုနေရပေမယ့် တကယ်တော့ ငှက်တောင်ဦးခေါင်းဆောင်း တန်ဆာပလာနဲ့ အဆောင်အယောင်တွေ အပြည့်အစုံ ရရှိသင့်တဲ့ လူဖြစ်တယ် "

" အေး ... ဟီး ... အေး ... ဟီး "

" ဘာပဲဖြစ်ဖြစ် အခုတော့ ဟောဒီက ပုဂ္ဂိုလ်ရဲ့ (ဤတွင် အဘိုးကြီးက ခရိတ်အား ညွှန်ပြသည်။) အမြော်အမြင် ကြီးမားမှုကြောင့် ငါဟာ ကင်းလင်းမွေးမြူရေးခြံကြီးမှာ မင်းတို့ကို ဦးစီး ကွပ်ကဲရမယ့် အင်ဒူနာ(အကြီးအကဲ) ဖြစ်လာတော့မယ်။ မင်းတို့ကတော့ ငါ့ရဲ့ အာမာဒိုဒါ (လုပ်သားကောင်းကြီးတွေ၊ စစ်သည်ကောင်းကြီးတွေ)ဖြစ်တယ် "

" အေး ... ဟီး ... အေး .... ဟီး "

တိုင်းရင်းသား များက စိတ်ပါ တက်ကြွစွာဖြင့် ဟစ်အော်ကြွေးကြော်ကြပြန်သည်။

" ကောင်းပြီ၊ မင်းတို့အားလုံး ဟောဒီကမျက်နှာဖြူ အမျိုးသားကို ကြည့်ကြစမ်း၊ သူဟာလူငယ်တစ်ယောက်ဖြစ်လို့ အထင်မသေးကြနဲ့။ သူဟာ မင်းတို့အားလုံးသိပြီးဖြစ်တဲ့ ပုဂ္ဂိုလ်ကြီးဘာဂူရဲ့မြေးဖြစ်တယ်။ တာကာ တာကာ လို့ မင်းတို့ သိကြတဲ့ပုဂ္ဂိုလ်ကြီးရဲ့ မြစ်တော်တယ် "

" ဟော ... ဟေး ... ဟေး "

မာတာဘယ်လီ တိုင်းရင်းသားများက တအံ့တဩ ရေရွက်လိုက်ကြသည်။

သူတို့အနေဖြင့် ခရိတ်၏ အဘိုးကြီးဘာဂူကို ကောင်းစွာသိကြပြီး တာကာတာကာဟု တိုင်းရင်းသားများက ခေါ်သော (ဘာဂူ၏ဖခင်) ဆာဘာလင်တိုင်အမည်ရှိ ပုဂ္ဂိုလ်ကြီးကိုမူ မမီလိုက်ကြချေ။ တာကာတာကာဟု တိုင်းရင်းသားများ အမည်ပေးထားခဲ့ရခြင်း အကြောင်းကတော့ ဆာဘာလင်တိုင်သည် တစ်ချိန်က ပုန်ကန်ထကြွသူ မာတာဘယ်လီ တိုင်းရင်းသားတို့အား စက်သေနတ်ဖြင့် တရကြမ်း တိုက်ခိုက်နှိမ်နင်းခဲ့၍ တိုင်းရင်းသားများက အလွန်ကြောက်ရွံ့ တုန်လှုပ်ခဲ့ ကြသောကြောင့်

ပင်ဖြစ်သည်။ ထို့ကြောင့် တိုင်းရင်းသားများသည် ယင်းပုဂ္ဂိုလ်ကြီး၏ မြစ်တော်သူ ခရိတ်အား တအံ့တသြ ငေးမောကြည့်နေကြစဉ် အဘိုးကြီး ရှာဒရပ်က အသံကျယ်ကျယ်ဖြင့် ပြောပြန်သည်။

" မင်းတို့အားလုံး သူ့ကို သေသေချာချာ အကဲခတ်ကြည့်ကြစမ်းပါ။ သူဟာ ပြည်တွင်းစစ်အတွင်းက ရှပ်ရှပ်ချွံချွံ တိုက်ခိုက်ခဲ့တဲ့ စစ်သည်သူရဲကောင်းတစ်ဦးလည်းဖြစ်တယ်။ သူကိုယ်တိုင် သူရဲဘောကြောင်တဲ့ ရှိုနာလူမျိုးတွေကို ရာနဲ့ချီပြီး သုတ်သင်ချေမှုန်းခဲ့သူဖြစ်တယ်။ ခြသေ့်မင်းလို သတ္တိကောင်းတဲ့ ငါတို့ မာတာဘယ်လီ စစ်သည်တချို့တောင် သူ့လက်ချက်နဲ့ ကျဆုံးခဲ့ရတယ်။ ဒါကြောင့် မင်းတို့က သူ့ကို လူငယ်တစ်ယောက်ဆိုပြီး အထင်မသေးကြနဲ့ "

" အေး ... ဟီး ... အေး ... ဟီး "

" အခု ဒီပုဂ္ဂိုလ်က မင်းတို့ကို ဘာမဟုတ်တဲ့ ဆိတ်ကျောင်းသား ဘဝကနေပြီး တကယ့် မျိုးကောင်းမျိုးသန့် နွားမွေးမြူရေး လုပ်သားကြီးများ ဖြစ်လာအောင် အဆင့်မြင့် ပေးလိမ့်မယ်။ မကြာခင် ဒီနယ်မြေမှာ အလွန်မျိုးကောင်းတဲ့နွားတွေ အမြောက်အမြားရှိလာလိမ့်မယ် "

ရှာဒရပ်က ဤသို့ အာဝဇ္ဇန်း ကောင်းကောင်းဖြင့် ပြောသည်ကို ခရိတ်သည် ဘေးမှနားထောင်နေရင်း ချီးကျူးမိလေသည်။ အဘိုးကြီးက တကယ်စကားပြောကောင်းပါလားဟု စိတ်ထဲမှ မှတ်ချက်ချမိလေသည်။ ထို့နောက် ခရိတ်ကိုယ်တိုင် ရှေ့သို့တိုးသွားပြီး တိုင်းရင်းသားများအား မာတာဘယ်လီဘာသာစကားဖြင့် ကျွမ်းကျင်စွာ ပြောလေသည်။

" မကြာခင် ဒီနေရာကိုမွေးမြူရေးနွားတွေ ရောက်လာပါတော့မယ်။ နွားတွေရောက်မလာခင် လုပ်စရာအလုပ်တွေ အများကြီးရှိနေပါတယ်။ ခင်ဗျားတို့ရဲ့ လုပ်အားခငွေကိုတော့ အစိုးရက သတ်မှတ်ထားတဲ့ စျေးနှုန်းအတိုင်း ကျုပ်ကပေးမှာ ဖြစ်ပါတယ်။

လုပ်ခငွေအဖြစ် အခြေခံစားကုန်တွေကို ရာရှင်အဖြစ် ခင်ဗျားတို့နဲ့တကွ ခင်ဗျားတို့ရဲ့ မိသားစုတွေအတွက်ပါ ပေးပါမယ်။ နောက်ပြီး ခင်ဗျားတို့လုပ်သားတွေကို ဒီမှာအလုပ်လုပ်တာ တစ်နှစ်ပြည့်တိုင်း ဘောနပ်စ်ဆုအဖြစ် လူတစ်ယောက်ကို နွားငယ်တစ်ကောင်အပိုင်ပေးမယ်။ အဲဒီ နွားငယ်တွေကိုလည်း ကျုပ်တို့ရဲ့ ကင်းလင်းမွေးမြူရေးခြံ ပိုင်နက်အတွင်းက စားကျက်တွေမှာ လွှတ်ထားခွင့်ပြုပါမယ်။ ခင်ဗျားတို့ရဲ့ ကိုယ်ပိုင်နွားတွေ အစာကောင်းကောင်း စားနိုင်အောင် စီစဉ်ပေးတဲ့ သဘောပါပဲ။ ခင်ဗျားတို့ရဲ့ နွားမတွေကို ကျုပ်ပိုင်ဆိုင်တဲ့ မျိုးကောင်းနွားထီးကြီးတွေနဲ့ သားစပ်ခွင့်လည်းပြုပါမယ် "

" အေး .... ဟီး .... အေး .... ဟီး "

တိုင်းရင်းသား ပရိတ်သတ်က သဘောကျဟန်ဖြင့် ဟစ်အော်ဩဘာပေးကြလေသည်။

" နောက်တစ်ခု ဆက်ပြောချင်သေးတယ်။ ခင်ဗျားတို့ထဲမှာ ကျုပ်ရဲ့ ပစ္စည်းတွေကို လောဘထွက်ပြီး ခိုးယူချင်စိတ် ပေါက်လာသူတွေတချို့ ရှိချင်ရှိမယ်။ ကျုပ်ရဲ့ နွားမျိုးကောင်း သို့မဟုတ် တခြား လုပ်ငန်းထဲက ပစ္စည်းတွေ ခိုးယူရောင်းစားလိုက်ရင် ဒီမှာလို ပင်ပင်ပန်းပန်း အလုပ်ကြမ်း မလုပ်ရဘဲ အေးအေး ထိုင်စားနိုင်မှာပဲလို့ စိတ်ကူးယဉ်မိသူ ရှိကောင်းရှိမယ်၊ ဒါနဲ့ပတ်သက်လို့ ခင်ဗျားတို့သိ အောင် ကျုပ်ရှင်းရှင်းပဲပြောပါမယ်။ လက်ရှိ ဇင်ဘာဘွေနိုင်ငံ အစိုးရဟာ ဉာဏ်အမြော်အမြင်ရှိတဲ့ အတွက် လူတွေလိုက်နာရမယ့် ကျင့်ဝတ်နဲ့ပတ်သက်တဲ့ ဥပဒေတွေ ပြဋ္ဌာန်းထားတယ်။ လူတစ် ယောက်ဟာ နောက်လူတစ်ယောက်ကို ရန်ပြုဖို့ဝေးလို့ ခြေထောက်နဲ့တောင်မကန်ရဘူးလို့ ဥပဒေနဲ့ တားမြစ်ထားတယ်။ ကိုယ်ကျင့်တရားပျက်ပြားမှုနဲ့ ပတ်သက်ရင် တရားဥပဒေက တင်းတင်းကျပ်ကျပ် ပိတ်ပင်တားမြစ်ထားတယ်။ ခင်ဗျားတို့ သိထားဖို့က တကယ်လို့ ခင်ဗျားတို့ထဲက ကိုယ်ကျင့်တရား ပျက်လာရင်တော့ ကျုပ်က ကိုယ့်ခြေထောက် အသုံးမပြုဘဲနဲ့ ခင်ဗျားတို့ကို လိမ့်ကန်နိုင်တယ်ဆိုတဲ့ အချက်ပဲ "

ပြောပြောဆိုဆို ခရိတ်က သူ၏ခြေတု တစ်ဖက်ကို ဖြုတ်၍ လက်ဖြင့် ကိုင်ထားလိုက်သည်။ တိုင်းရင်း သားများသည် အံ့အားသင့်စွာဖြင့် ငေးကြည့်နေကြသည်။

" ဟော့ ... ဒီမှာကြည့်ကြစမ်း၊ ဒါက ကျုပ်ရဲ့ ခြေထောက်အစစ် မဟုတ်ဘူးဆိုတာမြင်တယ် မဟုတ် လား "

ခရိတ်ကခပ်တည်တည်ထပ်ပြောလိုက်လျှင် တိုင်းရင်းသားလူမည်းများသည် မျက်လုံးပြူးကာတုန်လှုပ် ချောက်ချားနေပုံရလေသည်။ သူတို့၏ စိတ်ထဲတွင် မှော်ဆရာတစ်ဦးက လောကီပညာ အဆန်းတစ်ခု လုပ်ပြသည်ကို ကြည့်နေရသလို ထင်မှတ်နေကြလေသည်။

ခရိတ်က အသံကျယ်ကျယ်ဖြင့် ဆက်ပြောပြန်သည်။

" ဒါကြောင့် ကျုပ်က ဥပဒေကို မချိုးဖောက်ဘဲနဲ့ ခင်ဗျားတို့ကို ပိတ်ကန်လို့ ရတယ်"

ပြောပြောဆိုဆို ခရိတ်သည် သူ၏သစ်သားခြေထောက်တုကြီးကို ကိုင်၍ အနီးဆုံး တိုင်းရင်းသား တစ်ဦးအား ရိုက်တော့မလို ရိုက်ဟန်ပြုပြီးမှ မရိုက်ဘဲရပ်ထားကာ ပြုံးပြလေသည်။ တိုင်းရင်းသား လူမည်းများသည် ခရိတ်က ရယ်စရာလုပ်ပြကြောင်း သဘောပေါက်သွားကာ အားရပါးရ ရယ်မောကြလေသည်။ သူတို့အားလုံးသည် ခရိတ်အား ခေါင်းဆောင်အဖြစ် အသိအမှတ် ပြုကြပြီဖြစ်ကြောင်း သိသာထင်ရှား နေပေသည်။ နောင်အခါတွင် တိုင်းရင်းသား လူမည်းများသည် မိမိအပေါ် လေးစားကာ သစ္စာရှိရှိ အမှုထမ်းရုံမက မိမိနှင့် တစ်မိသားစုတည်းသဖွယ် ဖြစ်လာတော့မည်ဟုလည်း ခရိတ်က စိတ်ထဲမှအကဲဖြတ်မိလေသည်။

------------------------------

**အခန်း(၁၂)**

ခရိတ်အနေဖြင့် ပထမဆုံးတွေ့ရသည့်အခက်အခဲမှာ သူ၏မြေယာပတ်ပတ်လည် သံဆူးကြိုးဖြင့်လုံခြုံစွာ ဝင်းခတ်ရေးပင်ဖြစ်သည်။ ယခင်ကရှိခဲ့ဖူးသော ခြံစည်းရိုးဟောင်းများမှ သံဆူးကြိုးများအားလုံး ပြည်တွင်းစစ်ကာလအတွင်းက လူခိုးခံရဟန် တူလေသည်။ ခက်နေသည်က ယခုသူခြံစည်းရိုးအသစ် ပြန်ကာလိုပါသော်လည်း လောလောဆယ် ဇင်ဘာတွေနိုင်ငံတွေ သံဆူးကြိုးလုံးဝ ဝယ်မရခြင်းပင်ဖြစ်သည်။ အကြောင်းကတော့ နိုင်ငံခြားမှ သံဆူးကြိုးများ မှာယူတင်သွင်းရန် သွင်းကုန်ပါမစ် သို့မဟုတ် လိုင်စင်ကို အစိုးရက လုံးဝထုတ်မပေးသောကြောင့်ပင် ဖြစ်သည်။

ဘူလာဝေယိုမြို့မှ လယ်ယာကုန်ထုတ် သမဝါယမအသင်းဥက္ကဋ္ဌ ခရိတ်အား စိုက်ပျိုးမွေးမြူရေး လုပ်ငန်းလာလုပ်ခြင်းကို ဝမ်းမြောက်ဝမ်းသာကြိုဆိုရင်း-

"အခြေအနေကတော့ ခင်ဗျားသိတဲ့အတိုင်းပဲ၊ သံဆူးကြိုးဝယ်လို့မရဘူး၊ မကြာသေးခင်က လူတစ်ယောက်က အစိုးရအဖွဲ့ကို ချဉ်းကပ်နားလည်မှုယူပြီး နိုင်ငံခြားချောကလက်နဲ့ သကြားလုံးချိုချဉ်တွေ ဒေါ်လာဆယ်သိန်းဖိုး မှာယူတင်သွင်းခွင့် သွင်းကုန်ပါမစ် ရသွားတယ်လို့ သိရတယ်။ ဒါပေမဲ့ သံဆူးကြိုးတင်သွင်းဖို့ပါမစ်တော့ ဘယ်တော့မှမရဘူး"ဟု ပြောလေသည်။

ခရိတ် သည် အတော်ပင် စိတ်ဓာတ်ကျ မိလေသည်။

"ဘာပဲဖြစ်ဖြစ် ကျုပ်အနေနဲ့ သံဆူးကြိုးမရလို့ မဖြစ်ဘူးဗျ၊ ကျုပ်ရဲ့ မြေယာပတ်ပတ်လည်မှာ ခြံစည်းရိုးကာဖို့ အရေးကြီးတယ်။ ခြံစည်းရိုးကာထားမှလည်း ကျုပ်လုပ်ချင်တဲ့ မွေးမြူရေး လုပ်ငန်း

လုပ်နိုင်မှာ၊ ဒီမယ် ခင်ဗျားတို့ သမဝါယမအသင်းမှာ သံဆူးကြိုးတွေ ဘယ်တော့များ ရောက်လာမှာလဲ” ခရိတ်က ပြောလိုက်လျှင် သမဝါယမဥက္ကဋ္ဌက အခြေအနေကို ထပ်၍ရှင်းပြလေသည်။

“ဒါတော့ဗျာ၊ ရှင်းရှင်းပြောရမယ်ဆိုရင် ဟာရာရေမြို့တော်မှာရှိတဲ့ ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနက စာရေးကြီးအပေါ်မူတည်တာပဲ”

ခရိတ်လည်း စိတ်ပျက်ပျက်နှင့် သူ၏လင်းရိုဗာကားရှိရာသို့ လျှောက်လာစဉ် ရုတ်တရက် အကြံတစ်ခု စိတ်ကူးရမိလေသည်။ ထို့ကြောင့် ကားပေါ်သို့မတက်သေးဘဲ သမဝါယမအသင်းတိုက်သို့ ပြန်လှည့်လာပြီး ဝန်ကြီးဖွန်ဂါရာသီ၏ သီးသန့်တယ်လီဖုန်း နံပါတ်ကို လှည့်လိုက်သည်။

ခရိတ်က မည်သူမည်ဝါဖြစ်ကြောင်းနှင့် ဝန်ကြီးနှင့် စကားပြောလိုကြောင်း ပြောလိုက်သောအခါ တစ်ဖက်မှ နားထောင်သူ အတွင်းရေးမှူးက ချက်ချင်းပင် ဝန်ကြီးနှင့် ဆက်သွယ်ပေးလေသည်။

“ဗိုလ်ချုပ်ခင်ဗျား၊ ကျုပ်မှာ အရေးပေါ် ပြဿနာတစ်ခု ရင်ဆိုင်နေရပါတယ်”

ခရိတ် က စတင်ပြောလိုက်ရာ ဝန်ကြီးဖွန်ဂါဘီရာကလည်း

“ဘာဖြစ်လို့လဲဗျ၊ ကျုပ်ဘယ်လို ကူညီရမလဲ”ဟု ပြန်မေးလိုက်သည်။ ဤတွင် ခရိတ်လည်း သူအခက်အခဲ တွေ့နေသော သံဆူးကြိုးပြဿနာကို ပြောပြလိုက်သည်။

“မစ္စတာခရိတ်အနေနဲ့ သံဆူးကြိုး ဘယ်လောက်များများ လိုနေပါသလဲ”

“ဘေထုပ်လို့ ခေါ်တဲ့ သံဆူးကြိုးအထုပ် အနည်းဆုံး တစ်ထောင့်နှစ်ရာလောက် လိုနေပါတယ်”

“ကောင်းပြီ၊ တခြားဘာအခက်အခဲများ ရှိသေးသလဲ”

“လောလောဆယ်တော့ ဘာမှမရှိသေးပါဘူး၊ ဪ်နေဦးဗျ၊ ကျုပ်ဒီပြန်ရောက်တဲ့ အချိန်ကစပြီး ဆယ်လီကို လိုက်ရှာနေတာ ဘယ်လိုမှ အဆက်အသွယ်မရဘူး၊ သူ့တိုက်ခန်းကို တယ်လီဖုန်း ဆက်လို့လည်း မရဘူး”

“ဪ်............ခင်ဗျားက ဆယ်လီနဲ့ ဆက်သွယ်ချင်လို့လား။ ဒါဖြင့် နောက်ဆယ်မိနစ် ကြာရင် ကျုပ်ဆီ ပြန်ဖုန်းဆက်လိုက်ပါ”

ဝန်ကြီး ဖွန်ဂါဘီရာက စကားဖြတ်လိုက်သည်။

ခရိတ်လည်း ဆယ်မိနစ် စောင့်နေပြီး နောက်တယ်လီဖုန်း ပြန်ဆက်ကြည့်ရာ ဖွန်ဂါဘီဂါက အကျိုး အကြောင်း ပြောပြလေသည်။

"ဆယ်လီကို ခင်ဗျား ဆယ်သွယ်လို့မရတာက လောလောဆယ် သူဟာ ဇင်ဘာတွေနိုင်ငံ ပြင်ပကို ရောက်နေလို့ပါပဲ။ ကျုပ်အထင်တော့ သူလေယာဉ်နဲ့ ကင်ညာနိုင်ငံကို ခဏသွားပုံရတယ်၊ အခု ဆယ်လီဟာ ကစ်ချာတင်ဘူလို့ခေါ်တဲ့အရပ်ကို ရောက်နေတယ်လို့ သိရတယ်"

"ဟုတ်လား၊ သူက ဘယ်တော့လောက် ပြန်လာမှာတဲ့လဲ"

"ဒါတော့ ကျုပ်မပြောတတ်ဘူး၊ ဒါပေမဲ့ ဆယ်လီက ဒီနိုင်ငံထဲကို ပြန်ဝင်လာတာနဲ့ ကျုပ်ကခင်ဗျားကို အကြောင်းကြား လိုက်ပါ့မယ်"

ထိုမျှနှင့်ပင် စကားပြတ်သွားလေသည်။ ခရိတ်သည် ဝန်ကြီးဗိုလ်ချုပ် ဖွန်ဂါဘီရာ၏သတင်း စုံစမ်းရယူပြီး လျင်မြန်ထိရောက်ပုံနှင့် ဩဇာညောင်းမှုကို အံ့ဩချီးကျူးမိလေသည်။ ဇင်ဘာဘွေနိုင်ငံပြင်ပသို့ ရောက်နေသူတစ်ဦး၏ သွားလာလှုပ်ရှားမှုကို ဤမျှလျင်မြန်စွာ စုံစမ်းသိရှိခြင်းမှာ သူ၏ဩဇာလွှမ်းမိုးမှု ကျယ်ပြန့်ပုံကိုထင်ရှားစေသည့် သာဓကတစ်ရပ်ပင်ဖြစ်သည်။

နောက်တစ်ချက် စဉ်းစားမိသည်မှာ ဗိုလ်ချုပ်ဖွန်ဂါဘီရာအနေဖြင့် ဆယ်လီ၏ စိတ်လှုပ်ရှားသွားလာမှုကို မျက်ခြည်မပြတ် ခြေရာခံလိုက်စုံစမ်းရန် ကြိုတင်စီစဉ်ထားခြင်းဖြစ်နိုင်သော်ပေသည်။ အလားတူပင် မိမိ(ခရိတ်)ကိုလည်း ဇင်ဘာဘွေ ထောက်လှမ်းရေးက ခြေရာခံလိုက်ကြည့်ရန်လည်း အစီအစဉ်ရှိကောင်းရှိပေမည်။ စင်စစ်အားဖြင့် ခရိတ်သည် ဆယ်လီဆိုသူ အမျိုးသမီး ဘာကြောင့် ကစ်ချာတင်ဘူအရပ်သို့ သွားနေကြောင်းကို သိလေသည်။

ထိုအရပ်မှာ မာရာလွင်ပြင်ဒေသတွင် တည်ရှိပြီး နိုင်ငံခြား ဧည့်သည်များ အာဖရိကတောတွင်းသို့ လည်ပတ်လေ့လာရင်း  အမဲပစ်ထွက်ရ အဆင်ပြေသော ဆာဖာရီစခန်းတစ်ခု ရှိသည်။ ယင်းစခန်းသို့ ခရိတ်ကိုယ်တိုင် လွန်ခဲ့သောနှစ်နှစ်ခန့်က ရောက်ခဲ့ဖူးလေသည်။ ဆာဖာရီ စခန်းပိုင်ရှင်ဖြစ်သော ဂျော့နှင့်ဂျူရီကုမ္ပဏီ၏ ဖိတ်ကြားချက်အရ ခရိတ်က သွားရောက်လေ့လာခဲ့ခြင်းဖြစ်သည်။ ထိုအချိန်က တောကျွဲများ သားပေါက်ချိန်ဖြစ်ရာ အာဖရိက တောတွင်းဒေသရှုခင်းသည် အလွန်စိတ်ဝင်စားဖွယ်ကောင်းသည့်အချိန်ပင် ဖြစ်လေသည်။

"သေနတ်ပစ်ရင် ကျည်ဆန်တစ်တောင့်ကိုတော့ ကိုယ့်အတွက် ချန်ထားလိုက်ပါ"

ခရိတ်က ဘာကြောင့် ဤသို့ပြောသည်ကို ဆယ်လီသည် သဘောပေါက်သဖြင့် ဘာမှပြန်မပြောဘဲ ငေးကြည့် နေလေသည်။

"ဒါနဲ့ ပတ်သက်ပြီး မင်းက ငါ့ကို ကတိပေးစေချင်တယ်"

(ရန်သူနှင့် ရင်ဆိုင်တွေ့ရပြီး မတတ်သာ၍ အရှုံးပေးရတော့မည်ဆိုလျှင် ကိုယ့်ကိုယ်ကိုယ် အဆုံးစီရင်လိုက်ရန် ခရိတ်ဆိုလိုပေသည်။)

"ကောင်းပါပြီ ကျွန်မ ရှင့်ကို ကတိပေးပါတယ်"

ဆယ်လီက ခပ်တိုးတိုး ပြန်ပြောရာသည်။ ခရိတ်သည် ရန်သူလာရာဘက်သို့လှမ်းကြည့်လိုက်ရာ စစ်သားများက ကိုက်လေးရာခန့်အကွာသို့ ရောက်လာပြီဖြစ်ကြောင်းတွေ့ရလေသည်။ နီးလာပြီဖြစ်၍ လူဦးရေကို ရေတွက်၍ရပြီဖြစ်ရာ ခရိတ်သည် သေချာစွာကြည့်လိုက်သောအခါ စစ်သားငါးဦးရှိကြောင်းတွေ့ရလေသည်။ ထို့ကြောင့် စိတ်ဓာတ်ကျသွားမိလေသည်။ ကက်ပတိန်နီဘောဘီအနေဖြင့် ရန်သူတပ်ဖွဲ့အား ကိုယ်ခိုက်ရာ၌ မိမိတို့မျှော်လင့်သလောက် အကျအဆုံးများအောင် မပစ်ခတ်နိုင်ကြောင်းသိရ၍ စိတ်ဓာတ်ကျမိခြင်းဖြစ်သည်။ ယခုအတိုင်း ရန်သူစစ်သည် ရှစ်ဦးအနက် နီဘောဘီက သုံးဦးသာကျအောင် ပစ်ခတ်တိုက်ခိုက် နိုင်ခဲ့ကြောင်း ထင်ရှားပေသည်။

မိမိကအလစ်တွင် လျှပ်တစ်ပြက်လျင်မြန်စွာ တိုက်ခိုက်နိုင်သည့်တိုင်အောင် တစ်ယောက်နှင့်ငါးယောက်ဖြစ်၍ မိမိထက်ငါးဆ အင်အားများနေခြင်းသည် စိတ်ဓာတ်ကျစရာပင်ဖြစ်နေတော့သည်။ ရန်သူစစ်သားများသည် မိမိတို့ဝပ်နေသည်ကို မြင်ပုံမရသေးချေ။

"ဟော့....ဆယ်လီ ခေါင်းငုံ့ပြီးနေစမ်းပါ။ မျက်နှာမော့ထားရင် ရန်သူကအလွယ်တကူ မြင်နိုင်တယ်ကွဲ့"။ ခရိတ်က သတိပေးလိုက်သဖြင့် ဆယ်လီလည်း ချက်ချင်းပင်လိုက်နာကာ ဦးခေါင်းကို ငုံ့ထားလိုက်လေသည်။ ခရိတ်ကိုယ်တိုင်ကလည်း ရန်သူများ ရုတ်တရက်မမြင်နိုင်အောင် မျက်နှာကို ရှပ်အင်္ကျီအောက်စဖြင့် ဖုံးအုပ်ထားလိုက်ပြီးမှ၊ စစ်သားများချီတက်လာသည်ကို အသာကြည့်နေလေသည်။ တတိယ တပ်မဟာမှ စစ်သားများသည် တကယ့်စစ်သည်ကောင်းများဖြစ်ကြောင်း သိသာပေသည်။ တစ်ညလုံး မရပ်မနား ချီတက်လာခဲ့ရလင့်ကစား ယခုသူတို့ကို ကြည့်ရသည်မှာ ပင်ပန်းနွမ်းနယ်ပုံမရ။ အလွန်ဖျတ်လက်သွက်လက်နေပုံ ရလေသည်။

ရှေ့ဆုံးမှ ချီတက်လာသူမှာ အရပ်မြင့်မြင့်၊ ပိန်ပိန်ပါးပါး ရှီနာလူကြီးတစ်ဦးဖြစ်ပြီး စိတ်အားထက်သန်စွာဖြင့် လျှောက်လာနေသည်။ အေကေ ၄၇ရိုင်ဖယ်ကမောင်းပြန်သေနတ်ကို အလွယ်တကူ ပစ်ခတ်နိုင်ရန် လက်ယာဘက်ခါးနားတွင် အသင့်ကိုင်ထားသည်။ သူ၏ မျက်လုံးများကလည်း အလွန်စူးရှတောက်ပြောင်နေသည်။ ယခုလာသူ စစ်သည်ငါးဦးအနက် ထိုလူကပင် ခေါင်းဆောင်ဖြစ်ရမည်ဟု ခရိတ်က တွက်မိလေသည်။

ထိုလူ၏ ဝဲယာနစ်ဘက်၌ စစ်သားနှစ်ဦးစီညှပ်၍ လိုက်ပါလာရာ ထိုလူများကတော့ ခန္ဓာကိုယ်တုတ်တုတ်ခိုင်ခိုင်နှင့် ဗလကောင်းသူများ ဖြစ်ကြသည်။ သူတို့သည် အရပ်မြင့်မြင့်နှင့် ခေါင်းဆောင်က လက်ဖြင့် အချက်ပြခြင်းကို တစ်သဝေမတိမ်းလိုက်နာ၍ လှုပ်ရှားနေကြလေသည်။

စစ်သည်ငါးဦး အသံမပြုဘဲ တိတ်ဆိတ်စွာ ချီတက်လာနေစဉ် ခရိတ်သည် လက်ပစ်ဗုံးနှင့် ဆက်သွယ်ထားသော ဝိုင်ယာကြိုးကို အသင့်ပြင်ထားလိုက်သည်။ သူတို့၏ ဦးခေါင်းသည် ဝဲယာနစ်ဖက်လုံး လှည့်ပတ်ကြည့်နေပုံအရ တစ်စုံတစ်ခုကိုမြင်၍ ဖြစ်ရမည်ဟုထင်ရပေသည်။ ခရိတ်သည် အသက်ပြင်းပြင်း မရှူဝံ့အောင်ပင် ရင်ဖိုနေမိလေသည်။ အရပ်မြင့်မြင့် ရှီနာသည် လှုပ်ရှားပြန်လေသည်။ သူ၏ ဝဲယာနစ်ဖက်မှစစ်သည်များအား လက်ပြအချက်ပေး၍ ပုံစံအနေအထား ပြောင်းခိုင်းလိုက်ရာ စစ်သားငါးဦးတို့၏ ရပ်တည်ပုံ အနေအထားသည် မြားဦးပြောင်းပြန်လှန်သကဲ့သို့ ဖြစ်သွားလေသည်။

ယင်းအနေအထားသည် ငွန်နီခေါ် တိုင်းရင်းသားလူမျိုးအုပ်စုတို့ စစ်တိုက်ရာတွင် အသုံးပြုလေ့ရှိသော နည်းဗျူဟာတစ်ရပ်ပင် ဖြစ်ကြောင်းခရိတ်က သိထားလေသည်။ တစ်ချိန်က ငွန်နီတိုင်းရင်းသားတို့၏ ဘုရင်ချာကာဆိုသူသည် ယင်းနည်းဗျူဟာတိုက်နည်းဖြင့် ရန်သူတို့အား ထိရောက်စွာ တိုက်ခိုက်ချေမှုန်းခဲ့ဖူးလေသည်။ ယခုလည်း ခရိတ်အား ရန်သူက ငွန်နီတို့၏ သေနင်္ဂဗျူဟာနည်းဖြင့် ချေမှုန်းပစ်ရန် လာနေပါချေပြီ။

ခရိတ်သည် ရန်သူစစ်သားများဖြန့်၍နေရာယူထားပုံကိုကြည့်ပြီး မိမိကလက်ပစ်ဗုံးများ ခပ်ခွာခွာနေရာချထားမိခြင်းသည် ကောင်းလေစွဟုတွက်ကာ အနည်းငယ်အားတတ်သွားမိလေသည်။ ခေါင်းဆောင်ရှီနာလူမျိုး၏ ဝဲယာတောင်ပံနစ်ဖက်မှစစ်သားများသည် မကြာမီ မိမိမြှုပ်ထားသော လက်ပစ်ဗုံး များရှိရာသို့ ရောက်လာတော့မည် ဖြစ်သည်။

ခရိတ်သည် လက်ပစ်ဗုံးများနှင့် ဆက်ထားသော ဝိုင်ယာကြိုးများကို သေချာစွာ စစ်ဆေးကြည့်ပြီး အသင့်ပြင်ထားလိုက်သည်။ ရှေ့ဆုံးမှ တက်လာသူများထဲတွင် အရပ်မြင့်မြင့်နှင့် ရှီနာလူမျိုးခေါင်း

ဆောင်ပါလာလျှင် မည်မျှကောင်းမည်နည်းဟုလည်း စိတ်ထဲမှတောင့်တမိလေသည်။ သို့သော် ထိုလူက နောက်နားမှနေ၍ သူ၏လူများအား ညွှန်ကြားအမိန့်ပေးနေလေသည်။ လက်ယာဘက် တောင်ပံမှ စစ်သားများသည် လက်ပစ်ဗုံး မြှုပ်ထားရာနေရာအနီးသို့ ရောက်လာပြီး ဖြစ်သည်။ သို့သော် လက်ဝဲဘက်မှ လူကလက်ပစ်ဗုံးနေရာနှင့် ခြေလှမ်းဆယ်လှမ်းခန့် အကွာတွင်ပင် ရှိနေသေးသည်။

"နှစ်စလုံးကို တစ်ပြိုင်နက် ထိအောင် ဖောက်ခွဲမှ ကောင်းမယ်"

ဤသို့ ခရိတ်သည် စိတ်ထဲမှဆုံးဖြတ်မိလေသည်။ လက်ယာဘက်မှ စစ်သားသည် မြေကြီးအတွင်း မြှုပ်ထားသော လက်ပစ်ဗုံးနှင့်ပွတ်ထိသွားလောက်သည့်နေရာသို့ ရောက်လာပြီဖြစ်သည်။ လက်ဝဲဘက်ကလူသည်လည်း နီးကပ်လာလေသည်။ ထိုလူ၏နဖူးတွင် သွေးစွန်းနေသော ပတ်တီးစည်းထားလေရာ ကက်ပတိန်နီဘေဘီ၏ လက်ချက်ပင်ဖြစ်ရမည်ဟု ခရိတ်က တွက်လိုက်မိသည်။ လက်ပစ်ဗုံးများခွဲရန် အချိန်ရောက်ပြီဟုဆုံးဖြတ်လျက် ခရိတ်သည် ဝိုင်ယာကြိုးစနှစ်ခုကို တအားဆွဲလိုက်သည်။ ဗုံးဖောက်ခွဲသည့်စနက်တံများကို ဆွဲဖြုတ်လိုက်ခြင်းပင်ဖြစ်ရာ သုံးစက္ကန့်အကြာတွင် ထပေါက်ကွဲလေတော့သည်။

လက်ယာဘက်မှစစ်သားသည် လုံးဝပျောက်ကွယ်သွားလေသည်။ ထိုလူမှာလက်ပစ်ဗုံးနှင့် အလွန်နီးကပ်သဖြင့် မည်သည့်နည်းနှင့်မှ အသက်မရှင်နိုင်ဟု ထင်ရပေသည်။ ကျန်စစ်သည် သုံးဦးတို့သည် မြေပြင်သို့ ပစ်လှဲဝပ်ချလိုက်ရင်း သူတို့၏လက်နက်များဖြင့် ပြန်လည်ပစ်ခတ်ကြလေသည်။ နဖူး၌ ဒဏ်ရာရထားသူလက်ဝဲယာမှ လူတစ်ယောက်သာလျှင် မတ်တက်ရပ်လျက်ရှိလေသည်။ သို့သော် စက္ကန့်ပိုင်းမျှသာကြာသည်။ လက်ပစ်ဗုံးက ဝုန်းခနဲပေါက်ကွဲလေရာ ဓာတ်ပုံရိုက်သည့် ဖလက်ရှ်မီးလင်း သကဲ့သို့ပင် အလင်းရောင်ဖြာထွက်လာလေသည်။ လက်ပစ်ဗုံးမှ သံတိုသံစများသည် ထိုလူ၏ ဝမ်းဗိုက်တည့်တည့်သို့ တိုက်ရိုက်ထိမှန်သွားသဖြင့် လူတစ်ကိုယ်လုံးပါ မြောက်တက်သွားပြီးမှ မြေပြင်သို့ ပြန်ကျလေသည်။

"နှစ်ယောက်တော့ သွားပြီ"

ဤသို့ တွက်မိပြီးနောက် ခရိတ်သည် အရပ်မြင့်မြင့်နှင့်ရှုနာလူမျိုး(တပ်ဖွဲ့ခေါင်းဆောင်)အား ချိန်၍ပစ်ရန် ကြိုးစားလေသည်။ သို့ရာတွင် ခရိတ်သည် မြေပြင်တွင်ဝပ်၍ နေရသောကြောင့် သေနတ်ပြောင်းကိုလည်း သစ်ပင်ချုံနွယ်များကြားမှချိန်ရသောကြောင့် ထိမှန်အောင်ပစ်ခတ်ရန် မလွယ်ကူလှချေ။ ထိုပြင် ရှုနာလူမျိုးသားစစ်သည်က အငြိမ်မနေဘဲ မြေပြင်တွင်လိမ့်နေသဖြင့် ချိန်ပစ်ရန် ပို၍ပင်ခက်

နေလေသည်။ သို့ဖြစ်လင့်ကစား ခရိတ်သည် ထိုလူရှိရာသို့မှန်း၍ အေကေ ၄၇ရိုင်ဖယ်ဖြင့် စတင်လှမ်းပစ်လိုက်သည်။ မထိမှန်သဖြင့် နောက်ထပ်ပစ်လိုက်ပြန်တော့လည်း ထိုလူ၏လက်ဝဲဘက်သို့သာ ကျည်ဆန်များ ကျရောက်သွားသည်။ ဤတွင် ရှိုနာလူမျိုးကလည်း သူ၏ကိုယ်ကိုလှိမ့်ရင်းက ခရိတ်ဘက်သို့ ပြန်လည်ပစ်ခတ်လေသည်။ ထိုအခိုက် အခြားစစ်သားတစ်ဦးသည် ရုတ်တရက်ထပြီး ခရိတ်အား တောင်ဘက်မှ တိုက်ခိုက်ပစ်ခတ်ရန် ချိန်ရွယ်ပြန်လေသည်။ ခရိတ်ကလည်း ထိုလူ၏ လှုပ်ရှားမှုကိုရိပ်ခနဲမြင်လိုက်သဖြင့် ချက်ချင်းပင်ချာခနဲလှည့်ကာ သူ၏အေကေ၄၇မောင်းပြန်သေနတ်ဖြင့် ပစ်လိုက်လေသည်။ ခန္ဓာကိုယ်၏ အလယ်ပိုင်းနှင့် ဆီးစပ်နေရာသို့ ချိန်၍ပစ်လိုက်ခြင်းဖြစ်သည်။

အေကေ၄၇ သေနတ်သည် အနီးကပ်ပစ်ရာ၌ အလွန်ကြောက်စရာကောင်းအောင် ယမ်းအားပြင်းထန်လှသဖြင့် ခရိတ်ကဦးအောင် ကြိုတင်ပစ်လိုက်ခြင်းကြောင့် စစ်သားသည် သူ၏ရိုင်ဖယ်သေနတ်ကို ပစ်ချလိုက်ပြီး ရှေ့သို့အလျားထိုး မှောက်လဲကာ ငြိမ်သက်သွားလေတော့သည်။

အရပ်မြင့်မြင့်နှင့် ရှိုနာအမျိုးသားသည် သူ၏နောက်မှ စစ်သားတစ်ဦးအား ဟစ်အော်အမိန့်ပေးရင်း ခရိတ်ရှိရာဘက်သို့ ပြေးဝင်လာပြန်သည်။ ခရိတ်သည် ထိုလူဘက်သို့ လျင်မြန်စွာပြန်လှည့်လာပြီး အေကေ ၄၇ သေနတ်ဖြင့် ပစ်လိုက်သည်။ လူချင်း အလွန်နီးကပ်နေပြီဖြစ်၍ လွဲချော်စရာ အကြောင်းမရှိချေ။ သို့ရာတွင် ခရိတ်ကခလုတ်ကို ဆွဲလိုက်သောအခါ ဘာကျည်ဆန်မှ မထွက်ဘဲ ချောက်ခနဲသာ အသံမြည်သွားလေသည်။ သေနတ်ထဲတွင် ကျည်ဆန်ကုန်နေသောကြောင့်ပင်ဖြစ်သည်။ ရှိုနာအမျိုးသားသည် ဆက်လက်ပြေးဝင်လာလေသည်။

ခရိတ်လည်း ကပျာကယာ သေနတ်တွင် ကျည်ဆန်ကတ်အသစ် ထိုးလိုက်သည်။ သို့သော် သူ၏ လက်က ယခင်ကလောက် လျင်မြန်ဖျက်လက်ခြင်းမရှိဘဲ စက္ကန့်ပိုင်းခန့် နှောင့်နှေးနေသည်ဟု ထင်ရသဖြင့် စိုးရိမ်နေမိ လေသည်။

ထို့ကြောင့်ပင် သူသည် ကျည်ဆန်အသစ် ထိုးပြီးပြီးချင်း သေနတ်မောင်းကိုဆွဲ၍ ပစ်လိုက်သောအခါ အရပ်မြင့်မြင့်ရှိုနာလူမျိုးကို လုံးဝမမြင်ရတော့ချေ။ ထိုလူသည် မြေပြင်တစ်နေရာတွင် ဝပ်၍ နေရာယူ လိုက်ဟန်တူသည်။ ခရိတ်ပစ်လိုက်သော ကျည်ဆန်များသည် မည်သည့်ပစ်မှတ်မှမထိဘဲ လေထဲ တွင်သာ ဖြတ်ကျော်သွားလေသည်။ ခရိတ်သည်မချင့်မရဲဖြစ်လျက် ရှိုနာလူမျိုး၏နောက်မှ လိုက်လာ သူ စစ်သားအားချိန်၍ ပစ်လိုက်ပြန်သည်။ လူချင်းအတော်အလှမ်းဝေးသော်လည်း ကံကောင်း၍ပဲ လားမပြောတတ်။ ကျည်ဆန်တစ်တောင့်သည် ထိုလူ၏ ပါးစပ်ပေါက်တည့်တည့်သို့ ထိမှန်သွားလေ

ရာ လက်ဖဝါ့ချန်ပီယံတစ်ဦးက အနီးကပ်လက်သီးဖြင့် တအားထိုးလိုက်ဘိသကဲ့သို့ ထိုလူ၏ ဦးခေါင်းသည်နောက်သို့ လန်ထွက်သွားရင်း ပုံလျက်သား လဲကျသွား လေတော့သည်။

**အခန်း(၂၆)**

နယ်စပ်လမ်းသည် တောင်မြောက်စူးစူးဘက်သို့ သွားသည့်လမ်းဖြစ်ပြီး ဘော့ဆွာနာနိုင်ငံ ရဲတပ်ဖွဲ့ဝင်များ မှန်မှန်ကင်းလှည့်လေ့ရှိသော နေရာလည်းဖြစ်သည်။ ပြည်ပမှ တရားမဝင် ခိုးဝင်လာသူများအား လူဝင်မှုကြီးကြပ်ရေး ဥပဒေအရအရေးယူရန်နှင့် တောရိုင်းတိရစ္ဆာန်များအား ခိုးသတ်ခြင်းများကို ကာကွယ်ရန် ရဲတပ်ဖွဲ့ကမှန်မှန် ကင်းလှည့်လေ့ရှိခြင်းပင် ဖြစ်သည်။

ခရိတ်နှင့်ဆယ်လီတို့သည် ထိုလမ်းသို့ နေ့လယ်ပိုင်းတွင် ရောက်ရှိသွားကြလေသည်။ ထိုအချိန်၌ ခရိတ်သည် ရိုင်ဖယ်သေနတ်နှင့်တကွ ကျည်ဆန်ခဲယမ်းအားလုံးကို စွန့်ပစ်ထားခဲ့ပြီးဖြစ်သည့်ပြင် သူတို့၏ကျောပိုးအိတ်များတွင်လည်းအရေးတကြီးလိုအပ်သောပစ္စည်းများတစ်ပါး ကျန်ပစ္စည်းအားလုံးကိုစွန့်ပစ်ထားခဲ့လေသည်။ လမ်းခရီး၌သယ်ဆောင်ရမည့် ဝန်စည်ပေါ့ပါးစေရန် မလိုအပ်သောပစ္စည်းများကို ထားပစ်ခဲ့ခြင်းဖြစ်သည်။ တစ်ချိန်တွင် သူ၏ ရေးလက်စစာမူများကိုပင် မြေကြီးထဲမြှုပ်ပစ်ခဲ့ရန် စဉ်းစားမိသေးသည်။ စာမူစ ရွက်တွေက အလေးချိန် ရှစ်ပေါင်ခန့်ရှိ၍ ခရိတ်ကလေးသည်ဆိုပြီး မြှုပ်ထားခဲ့ရန် ကြံစည်စိတ်ကူးခဲ့ခြင်း ဖြစ်သည်။

နောက်ကျမှ လာရောက်တူးဖော်မည်ဟုဆိုသော မြှုပ်ပစ်မည်ပြုရာ ဆယ်လီက စာမူတွေကိုတော့ ထားမပစ်ခဲ့ပါနှင့်ဟု တောင်းပန်ပြောဆိုသဖြင့် မမြှုပ်ဘဲသယ်ယူလာခဲ့လေသည်။ သူတို့၏ ရေဘူးတွင် ရေလုံးဝကုန်နေပြီ ဖြစ်သည်။ ခရိတ်နှင့် ဆယ်လီတို့သည် ရေဘူးထဲမှ နောက်ဆုံး လက်ကျန်ရေ အနည်းငယ်ကို နှစ်ယောက်သားယူ၍ မွန်းမတည့်မီအချိန်က သောက်လိုက်ကြပြီဖြစ်သည်။ နေက ပူပြီဖြစ်၍ သူတို့လျှောက်သည့်နှုန်းမှာ တစ်နာရီလျှင် (၁)မိုင်သာသာမျှသာ ရှိသည်။

ခရိတ်သည် စောစောကလို ချွေးထွက်ခြင်းမရှိတော့ပါ။ အာခေါင်ခြောက်ပြီး ရေငတ်၍သာ လျှာကပူလောင်လာသလို ဖြစ်လာသည့်အပြင် လည်ခေါင်းတွင်လည်း  မခံမရပ်နိုင်အောင် ရေငတ်ခြင်းဝေဒနာ ခံစားနေရလေသည်။ နယ်စပ်သွားလမ်းမပေါ်သို့ ရောက်သောအခါ ခရိတ်သည် ပတ်ဝန်းကျင်သို့ သေချာစွာဂရုစိုက်ကြည့်လေသည်။ ပင်ပန်းနွမ်းနယ်လွန်း၍ ခြေလှမ်းတစ်လှမ်းလှမ်းရသည်ကိုပင် အလွန်ခဲယဉ်းလာသည် ဟု ထင်ရလေသည်။ သေချာစွာ စဉ်းစားကြည့်သောအခါ၌ ဤအဖြစ်မျိုးကြုံရလေသူများတွင် မိမိတို့ ပထမဆုံးမဟုတ်နိုင် တွေးမိပြန်သည်။ ဤဒေသသို့ လာရောက်၍

နယ်စပ်ကို ဖြတ်ကျော်ဝင်လာသူမှန်သမျှ ရေငတ်ခြင်းဒဏ်နှင့် ရာသီဥတု ခြောက်သွေ့ပူပြင်းသည့် ဒဏ်ကို ရင်ဆိုင်ခံစားရသည့်ချည်ပါပေလားဟု ဆင်ခြင်သုံးသပ်မိလေသည်။ နှစ်နာရီခန့် ဆက်သွားကြပြီးနောက် ခရိတ်သည် ခေတ္တရပ်ဆိုင်းလေသည်။ ဘော့ဆွာနာ နယ်ခြားစောင့်ရဲကင်းများနှင့် လုံးဝမတွေ့ရသေးသဖြင့် မိမိတို့လမ်းမှားလာပြီလားဟုလည်း သံသယဖြစ်လာမိသည်။

"အခုလောက်ဆိုရင် နယ်ခြားကင်းရှိတဲ့နေရာကို ရောက်ဖို့ကောင်းပြီ။ ငါတို့ လမ်းမှားလာသလား မပြောတတ်ဘူး။ "ကွန်ပါ" ကိုရိယာကြည့်ပြီး ငါတို့လာခဲ့ပေမယ့် "ကွန်ပါ" မှားနေရော့သလား" ဤသို့ပြောရင်း ခရိတ်သည် ပတ်ဝန်းကျင်ရှုခင်းကို လှည့်ပတ်ကြည့်၍ စိတ်ထဲမကျေနပ် ဖြစ်လာမိသည်။ "ငါတို့ဟာ တောင်ဘက်စွန်ကို ရောက်နေတာနဲ့ တူတယ်"

ဤသို့ ပါးစပ်မှ ရေရွတ်ရင်း ဘာဆက်လုပ်ရမှန်း မသိအောင် ခေါင်းရှုပ်လာမိလေသည်။

နေမဝင် တစ်နာရီခန့်အချိန်တွင် ခြောက်သွေ့နေသော စပျစ်သီးပင်လို သစ်ပင်တစ်ပင်ကိုတွေ့ရလေသည်။ ခရိတ်လည်း သစ်ပင်အနီးသို့ ချဉ်းကပ်ကြည့်ရာ လိမ္မော်သီးငယ်အရွယ် အသီးတစ်လုံးသာလျှင် ရှိကြောင်းတွေ့ရလေသည်။ ခရိတ်လည်း ဘာမှမရှိသည့်အတူတူတော်သေးရဲ့ဟု သဘောထားကာ သစ်သီးကို ခူး၍ယူလိုက်သည်။ ထို့နောက် လုံ့စွပ်ထိပ်ဖျားဖြင့် သစ်သီးကိုနှစ်ခြမ်းခွဲလိုက်သည်။ သစ်သီး၏အတွင်းသားသည် အေးနေရမည်ဖြစ်သော်လည်း ပူပြင်းသောနေရှိန်ကြောင့် ပူနွေးလျက်ရှိသည်။
"အဲဒါ ဖရဲသီးတစ်မျိုးပဲကွဲ့။ ဂင်ရှော့ မယ်လင်လို့ခေါ်တယ်"

ခရိတ်က ဆယ်လီအား ထိုသစ်သီးအကြောင်း ရှင်းပြလေသည်။

ထို့နောက် သူသည် ဖရဲသီးကို ဆယ်လီအား ခွဲ့ပေးလိုက်သည်။ သူမ၏ နှုတ်ခမ်းနှင့် လျှာတို့သည် ပူဖောင်းနေသဖြင့် ဖရဲသီးကို မနည်းကြိုးစား၍ မျိုချရရှာသည်။ ခရိတ်လည်း ဖရဲသီးမှအရည်ကို ညှစ်၍ ဆယ်လီအား တိုက်လိုက်ပြန်သည်။ သူမသည် မျက်စိမှိတ်ထားရာမှဖွင့်ကြည့်ပြီး ခရိတ်၏ အပြုအမူကို မြင်သွားကာ ကျေးဇူးတင်ဟန်ဖြင့် ကြည့်နေရှာလေသည်။

ခရိတ်က ဆယ်လီအား ဆွဲထူပေးလိုက်ပြီး နှစ်ယောက်သား ကြိုးစား၍ ဆက်လျှောက်သွားကြလေသည်။ အတန်ကြာသွားကြပြီးနောက် ရပ်နားလိုက်ကြသည်။ ထိုအချိန်၌ ခရိတ်သည် ဦးနှောက်ထဲကြည်လင်ခြင်းမရှိဘဲ အိပ်မက်မက်နေသလို ဝိုးတိုးဝါးတားဖြစ်နေလေသည်။ မျက်စိထဲတွင် မည်းမည်းသဏ္ဌာန်မြင်ယောင်နေမိသည်။ မကောင်းဆိုးဝါးများ ခြောက်လှန့်နေသလိုလည်း ထင်မိသည်။ အမှန်

တော့ သူသည် စိတ်ကယောင်ချောက်ချား ဖြစ်နေလေသည်။ သူ၏ စာမူများကို ထုတ်ဝေသူများထံ ဆက်သွယ်ရောင်းချပေးသူ "ဧဂျင်း" (ကိုယ်စားလှယ်) အက်ရှီ ဆိုသူကိုလည်း မြင်ယောင်လာမိသည်။ အက်ရှီသည် မိမိ၏နောက်ဆုံးစာမူဖိုင်တွဲကြီးကို ကိုင်ထားကာ မိမိအားစကားပြောနေသည်ဟု ထင်ရသည်။

"ဒီမယ် ခင်ဗျားရဲ့ စာမူကို ထုတ်ဝေသူတွေ လိုက်ပြကြည့်တော့ ဘယ်သူကမှ မကြိုက်ဘူးဗျ။ စက္ကူပါး အဖုံးနဲ့ ဈေးပေါပေါရိုက်နိုင်တဲ့ လူတွေကတောင် မလိုချင်ဘူးပြောတယ်။ ဒီတော့ ရှင်းရှင်းပြောရရင် ခင်ဗျားဟာ စာရေးဆရာအဖြစ် မစွံသေးဘူး။ ရှေ့လျှောက် မျှော်လင့်ချက်မထားနဲ့တော့ ကိုယ်လူ"

အက်ရှီက ဤသို့ပြောနေစဉ် ခရိတ်ကသေချာစွာ ကြည့်လိုက်ရာ အက်ရှီကိုင်ထားသည်မှာ မိမိ၏ စာမူမဟုတ်ဘဲ စားသောက်ဆိုင်မှမီနူးစာရွက်ဖြစ်နေသည်ကိုတွေ့ရပြန်သည်။ သူတို့နှစ်ဦး စားသောက်ဆိုင်တစ်ဆိုင်တွင် စားသောက်ရင်းစကားပြောနေကြသည်ဟု မြင်ယောင်လာမိပြန်သည်။

အက်ရှီက စကားပြောပြန်သည်။

"ကိုင်း....ခရိတ် ဘာမှစဉ်းစားမနေနဲ့တော့။ ရှန်ပိန်အရက်သောက်ကြရအောင်။ ဘော်တွန်ရှန်ပိန်မျိုးကို ကြိုက်သလား"

ထိုအခါ ခရိတ်က ဘာမှမဆီမဆိုင်သော စကားကို အော်ပြောလိုက်မိသည်။

"အာဖရိကတိုက်က မှော်ဆရာတွေမှသာ တောခွေးရိုင်းကို စီးတာဗျ"

ဤတွင် အက်ရှီက သရော်သလို ရယ်မောလိုက်ပြီးနောက် ခရိတ်၏ စာမူကို လေထဲသို့ လွှင့်ပစ်လိုက်သည်။ စာရွက်များကြမ်းပြင်သို့ပြန်ကျသောအခါ တစ်ရွက်စီပြန့်ကျဲသွားရာ ခရိတ်သည်လေးဖက်ထောက်လျက် စာရွက်များကို ပြန်ကောက်ရလေသည်။ ထိုအခိုက် ဆယ်လီသည် အနီးသို့ရောက်လာသဖြင့် နှစ်ယောက်သားပွေ့ဖက်ထားလိုက်မိကြသည်။ ဤသည်ကားခရိတ် အိပ်မက်မက်နေခြင်းပင်ဖြစ်သည်။

ခရိတ် အိပ်ရာမှနိုးလာသောအခါမိုးစင်စင်လင်းနေပြီဖြစ်သည်။ ဆယ်လီကတော့နှစ်ခြိုက်စွာ အိပ်ပျော်လျက်ပင်ရှိသေးရာ မနိုးရက်ဘဲ ဆက်အိပ်နေစေလေသည်။ ဆယ်လီမျာ အသက် မှန်မှန်ရှူလျက် အိပ်ပျော်နေရှာလေသည်။ ခရိတ်သည် ရေတွေ့လိုတွေ့ငြား အာဖရိကတိုက်သားတို့၏ နည်းတစ်ခုကို စမ်းသပ်ကြည့်လေသည်။

မြေကြီးတွင်တွင်းတူး၍ အနီးအနားရှိသစ်ခက်သစ်ရွက်များကို စုဆောင်းကာ လုံစွပ်ဖြင့် နုပ်နုပ်စဉ်း ပြီးတွင်အောက်ခြေတွင် ချထားလိုက်သည်။ ထို့နောက် သတ္တုရေဘူးလွတ်၏အပေါ်ပိုင်းကို ဖြတ်ပစ် လိုက်ပြီး ရေခွက်သဏ္ဍာန် ဖြစ်လာသောအခါ ယင်းခွက်ကို တွင်းအလယ်ကောင်တွင် ချထားလိုက် သည်။ တစ်ဖန် တွင်း၏အပေါ်မှပလက်စတစ်အခင်းတစ်ခု ဖုံးအုပ်ထားလိုက်သည်။ ယင်းပလတ်စတစ် အခင်း၏ အလယ်ဗဟိုတည့်တည့် (သတ္တုရေဘူးပြတ်၏ အပေါ်တည့်တည့်)တွင် သေနတ်ကျည် ဆန်တစ်တောင့် အသာတင်ထားလိုက်သည်။

နေပူရှိန်ပြင်းလာသောအခါ သစ်ရွက်သစ်ခက်များ နုပ်နုပ်စဉ်းထားသည့်နေရာမှ အစိုဓာတ်များ အငွေ့ ပြန်ထွက်လာကာ သတ္တုရေဘူးပြတ်တွင်းသို့ကျလာလိမ့်မည်ဟု မျှော်လင့်ရပေသည်။ ဤကား အာဖရိ ကတိုက်မှ တိုင်းရင်းသားများရေရှားပါးသည့်အရပ်ဒေသများတွင်ရေသောက်ရန် အနည်းငယ်ရအောင် ကြံစည်နည်းတစ်ခုပင်ဖြစ်သည်။ အားလုံးပြီးစီးသွားသောအခါ ခရိုတ်သည်ဆယ်လီရှိရာသို့ ပြန်လာ လျက် ဆယ်လီ၏မျက်နှာကို နေရောင်မထိုးအောင် သူ၏ကိုယ်ဖြင့် ကာထားလိုက်သည်။

"ဘာမှ မစိုးရိမ်ပါနဲ့ကွာ။ ငါတို့မကြာခင် နယ်ခြားလမ်းကို ရောက်သွားမှာပါ။ အခုပဲ တော်တော်နီး လာပါပြီ"
ဤသို့ ဆယ်လီအား နှစ်သိမ့်ပြောလိုက်ပြီးနောက် ခရိုတ်သည် အိပ်မက်ထဲမှ သူ၏စာမူကိုယ်စား လှယ် (ဂျေင်း) အက်ရှီအား သတိရကာ-

"အက်ရှီဆိုတဲ့လူပြောတာ အလကားပါ။ ငါက စာမူကို ပြီးအောင်ဆက်ရေးမယ်။ စာအုပ်ထွက်လာပြီး ရင် ရုပ်ရှင်ကုမ္ပဏီတစ်ခုခုက  ရုပ်ရှင်ရိုက်ဖို့လာဝယ်မှာပါ။ သေချာတယ်။ ငွေတွေ အများကြီးရတော့ ငါရဲ့ ကင်းလင်းမွေးမြူရေးခြံကြီးကို ပြန်ဝယ်ယူလိုက်မယ်။ ဘာမှမစိုးရိမ်ပူပန်နေစရာ မလိုဘူး"ဟု စိတ်ထဲမှရေရွတ် ပြောဆိုမိပြန်လေသည်။  ဆယ်လီကတော့ အိပ်ပျော်နေရှာသည်။

ခရိုတ်သည် တမနက်လုံး စိတ်ရှည်စွာဖြင့် ထိုင်စောင့်နေပြီးနောက် မွန်းတည့်ချိန် ရောက်လာသော အခါ တွင်းတူးရေခံထားသည့်နေရာမှ ပလတ်စတစ်အဖုံးကို ဖွင့်လိုက်လေသည်။ ရေဘူးတစ်ပိုင်းပြတ် အတွင်းသို့ကြည့်လိုက်ရာ ရေတစ်ပိုင့်ခန့်ရှိနေကြောင်း တွေ့သဖြင့်ဝမ်းသာသွာမိလေသည်။

ရေဘူးပြတ်ထဲမှ ရေအနည်းငယ်ယူ၍ တစ်ငုံမျှသောက်စမ်းကြည့်ရာ နေရှိန်ကြောင့် ပူနွေးနေသော် လည်း အရသာကပျားရည်ကဲ့သို့ ချိုမြိန်လှသည်ဟုထင်မိလေသည်။ ခရိုတ်သည် နောက်ထပ် ရေအနည်းငယ်ကို ပါးစပ်ဖြင့်ငုံ၍ ဆယ်လီ၏ပါးစပ်ထဲသို့ ညင်သာစွာ ထည့်ပေးလိုက်သည်။ ဤသို့

ပြုလုပ်ခြင်းမှာရေငတ်သူများအနေဖြင့်ရေတွေ့သည့်အခါအနည်းသာမျှသာတစ်စက်ချင်းသောက်သင့် သောကြောင့် ခရိတ်ကဆယ်လီ၏ ပါးစပ်ထဲသို့ တစ်စက်ချင်း ငုံထည့်ပေးလိုက်ခြင်းပင် ဖြစ်သည်။

ဆယ်လီလည်း လျှာပေါ်သို့ရောက်လာသော ရေစက်များကို လျင်မြန်စွာမျိုချလိုက်သည်။ ယင်းသို့ ရေကို တစ်စက်ချင်း ဆယ်လီအား တိုက်လိုက်ပြီးနောက် သတ္တုရေဘူးပြတ်ထဲမှ နောက်ဆုံးကျန်သော ရေအနည်းငယ်ကိုတော့ ခရိတ်ကိုယ်တိုင်သောက်ချလိုက်သည်။ ထို့နောက် သတ္တုရေဘူးကို မြေတွင်း ထဲ ပြန်ထည့်ကာ နောက်ထပ်ရေရရှိရန် သစ်ရွက်သစ်ခက်များ ရှာဖွေကာ နပ်နပ်စဉ်းပြီး ထည့်ထား လိုက်ပြန်သည်။ ခရိတ်သည် ဆယ်လီ၏ဘေးနားတွင် လဲလျောင်းနေလိုက်ရင်း ဆယ်လီ၏မျက်နှာ ကို နေပူရှိန်မထိုးအောင် သူ၏ ရုပ်အင်္ကျီအောက်ပိုင်းကို ဆုတ်ဖြဲ၍ ပိတ်စဖြင့်ကာပေးလိုက်သည်။ ပါးစပ်မှလည်း ဆယ်လီနားသို့ ကပ်၍-

"အားတင်းနေပါ အချစ်ရယ်၊ မကြာခင် ငါတို့ကိုကူညီမယ့်လူ ပေါ်လာတော့မှပါ"ဟု ခပ်တိုးတိုး ပြောလိုက်သည်။ သို့ရာတွင် ခရိတ်၏စိတ်ထဲတွင်ကား အားငယ်စိုးရိမ်နေမိလေသည်။ ယခုလိုအစာ ရေစာမရှိဘဲ နောက်ထပ် တစ်ရက်အသက်ရှင်နေရန် ခဲယဉ်းကြောင်းသိနေပေသည်။ နောက်တစ်နေ့ တွင် မိမိတို့သည် တတိယတပ်မဟာမှ စစ်သားများကြောင့်ဖြစ်စေ၊ သို့မဟုတ် နေပူရှိန်ကြောင့် ဖြစ်စေ၊ သေရပေတော့မည်ဟု သိနေသည်။

နေဝင်ချိန်သို့ ရောက်သောအခါ သတ္တုရေဘူးပြတ်ထဲတွင် ရေတစ်ဝက်ခန့် ရရှိပြန်လေသည်။ ထိုရေ ကို သောက်လိုက်ကြပြီးနောက် နှစ်ယောက်စလုံးအိပ်ပျော်သွားကြလေသည်။ ခရိတ်သည် ရုတ်တ ရက် အိပ်ရာမှလန့်နိုးလာလေသည်။ ပထမသော် ညလေအေးတိုက်ခက်မှု ကြောင့်လန့်နိုးလာခြင်းဟု ထင်မိသည်။ ခရိတ်သည် ကြိုးစား၍ ထထိုင်ပြီးနောက် သေချာစွာ နားစွင့်ထောင်နေလသည်။

ထိုအချိန်၌ သူ၏ဦးနှောက် ကြည်လင်ခြင်းမရှိသေး။ အိပ်မက်မက်နေသလား၊ တကယ်ပဲလားဟူ၍ ဝေခွဲ၍ မရဖြစ်နေသည်။ ကောင်းကင်သို့မော့ကြည့်လိုက်သောအခါ နံနက် အရုဏ်တက်လုပြီဖြစ် ကြောင်း သတိပြုမိလေသည်။ ထိုခဏ၌ပင် သူအိပ်ရာမှ လန့်နိုးစေခဲ့သော အသံကို ကြားရပြန်လေ သည်။ ထိုအသံကို ခရိတ်က ကောင်းစွာ မှတ်မိပေသည်။

အခြားမဟုတ်၊ လင်းရိုဗာကား၏ အင်ဂျင်စက်သံပင်ဖြစ်သည်။ ဤအတိုင်းဆိုလျှင် တတိယ တပ်မဟာ က မိမိတို့အား လိုက်လံရှာဖွေခြင်းကို လက်မလျှော့သေးကြောင်း ထင်ရှားနေပေသည်။ အခု မိမိတို့ နောက်သို့ ဆိုက်ဆိုက်မြိုက်မြိုက် လိုက်လာနေပြီမဟုတ်ပါလော။ အတော်အလှမ်းဝေးသေးသော

နေရာ၌ မော်တော်ကား၏ ရှေ့မီးလုံးကြီးများကို မြင်နေရပြီဖြစ် သည်။ ခရိတ်သည် သူ၏ အေကေ ၄၇ မောင်းပြန်ရိုင်ဖယ်သေနတ်ကို လက်ဖြင့်စမ်းလိုက်ရာရှာမတွေ့ဘဲဖြစ်နေ၍ စိတ်ပျက်သွားမိလေသည်။ သူသည် တဖြည်းဖြည်း နီးကပ်လာသော မော်တော်ကားရှေ့မီးလုံးများကို ငေးစိုက်ကြည့်နေမိသည်။ ကားမီးရောင်တွင်လှုပ်ရှားနေသော ခပ်သေးသေးပုပုသဏ္ဍာန်တစ်ခုကိုမြင်မိသဖြင့် အံ့အားသင့်သွားမိလေသည်။ သေချာစွာကြည့်လိုက်တော့မှ အာဖရိကတောင်ပိုင်း သဲကန္တာရဒေသ၌ နေထိုင်သော ဘွတ်ရှ်မင်း(Bush Man)ခေါ် တိုင်းရင်းသားလူပုကလေးတစ်ဦး ဖြစ်နေကြောင်း သတိပြုမိလေသည်။ (မှတ်ချက်။ ။ ဘွတ်ရှ်မင်းခေါ် တိုင်းရင်းသားတစ်မျိုးမှာ တောင်အာဖရိကဒေသ ကာလာဟာရီ သဲကန္တာရကြီးအနီးတွင်နေထိုင်ကြသူ ပစ်ဂ်မီခေါ်လူပုကလေးတစ်မျိုး ဖြစ်သည်။ အရပ်လေးပေသာသာ မြင့်ပြီး အလွန်အစာရေစာရှားပါးသော သဲကန္တာရဒေသတွင် အံ့ဩဖွယ်ကောင်းလောက်အောင် နေထိုင်နိုင်ကြသူများ ဖြစ်သည်။

ယင်း ဘွတ်ရှ်မင်းတို့၏ ထူးခြားသော အရည်အချင်းတစ်ခုမှ မြေပြင်ကိုကြည့်ရုံနှင့် ဖြတ်သန်းသွားသူ လူ သို့မဟုတ် တိရစ္ဆာန်မှန်သမျှကို ခြေရာခံလိုက်နိုင်ကြခြင်းပင်ဖြစ်သည်။ ခြေရာခံလိုက်ရာ၌ ကမ္ဘာပေါ်တွင် အထူးချွန်ဆုံးလူမျိုးများ လူပုကလေးများဖြစ်သည်ဟု အဆိုရှိသည်။ မြန်မာပြန်သူ)

ခရိတ်သည် လူပုကလေးကို မြင်ရုံနှင့်အဖြစ်မှန်ကို ချက်ချင်းရိပ်မိလေသည်။ တတိယတပ်မဟာမှ စစ်သားများက မိမိတို့နောက် ခြေရာခံလိုက်ရန် ဘွတ်ရှ်မင်း လူပုကလေးတစ်ဦးကို ငှားရမ်းခေါ်ယူ၍ လိုက်လာခြင်းဖြစ်ရပေမည်။ ဘွတ်ရှ်မင်း တိုင်းရင်းသားတစ်ဦးဖြစ်၍သာ လင်းရိုဗာကား၏ မီးရောင်နှင့် မြေပြင်ကိုကြည့်ပြီး မိမိတို့နောက် ခြေရာခံလိုက်လာနိုင်ခြင်း ဖြစ်ပေသည်။ ခရိတ်သည် ထွက်ပြေးချိန် မရှိတော့သဖြင့် ရန်သူအားရင်ဆိုင်ရန်ဆုံးဖြတ်လျက် သေနတ်မှလုံ့စွတ်ကို အသင့်ကိုင်ထားလိုက်သည်။ ခုခံတိုက်ခိုက်ရင်း အသေခံသွားမည်။ အနည်းဆုံး ရန်သူတစ်ယောက်ကိုတော့ ချေမှုန်းပစ်ပြီးမှ အသေခံမည်ဟူ၍လည်း စိတ်ပိုင်းဖြတ်ထားလိုက်သည်။

လင်းရိုဗာကားသည် ခရိတ်တို့ရှိရာ နေရာအနီးသို့ရောက်လာပြီး ရပ်လိုက်သည်။ လမ်းပြအဖြစ် လိုက်လာသူ ဘွတ်ရှ်မင်း လူပုကလေးအနီးတွင်ရပ်ရင်း သူတို့၏ ထူးဆန်းသော ဘာသာစကားဖြင့် တစ်စုံတစ်ခု ပြောနေလေသည်။

(မှတ်ချက်။ ။မနုဿဗေဒပညာရှင်များ လေ့လာချက်အရတောင်ပိုင်းမှ ဘွတ်ရှ်မင်း လူပုကလေး များ၏ ဘာသာစကားမှာ အခြားအာဖရိကတိုင်းရင်းသား လူမည်းများ၏ဘာသာနှင့်လုံးဝမတူ။ တရုတ်

ဘာသာစကားပြောသံနှင့်တူနေကြောင်း။ ထို့ကြောင့် ဘွတ်ရှ်မင်းလူပုကလေးများသည် မွန်ဂိုလူမျိုးနွယ် ဖြစ်နိုင်ဖွယ်ရာရှိကြောင်း ကောက်ချက်ချထားကြသည်။)

လင်းရိုဗာကားတံခါးဖွင့်သံ၊ ပိတ်သံကြားလိုက်ရပြီးနောက်၊ လူတစ်ယောက်ကားပေါ်မှာ ဆင်းလာရာ ခရိတ်သည် ထိုလူအား ချက်ချင်းမှတ်မိလေသည်။ အရင်မြင့်မြင့် ထောင်ထောင်မောင်းမောင်းနှင့် မိမိတို့ဘက်သို့ လျှောက်လာပုံအရ ဗိုလ်ချုပ်ဖွန်ဂါဘီရာပင် ဖြစ်ရပေမည်။

ခရိတ်သည် ထိုလူအနီးသို့ရောက်လျှင် လှံစွပ်ဓားဖြင့် လည်ပင်းသို့ တအားထိုးစိုက်လိုက်မည်ဟု စိတ်ကူးထားပြီးဖြစ်သည်။ သို့သော် တကယ်တမ်းကျတော့ ခရိတ်မှာ အစာငတ် ရေငတ်၍ အားအင်ပြတ်နေခြင်းကြောင့် ခြေလက်အင်္ဂါများ မလှုပ်မရှားနိုင်ချေ။

ငါတော့ ကေန်မုချ သေရတော့မှာပါတကားဟုလည်း သူ၏ဘဝကြမ္မာဆိုးပုံကိုသာ တွေးနေမိသည်။ ကားပေါ်မှဆင်းလာသူက အင်္ဂလိပ်ဘာသာဖြင့် စကားပြောလိုက်သောအခါ ခရိတ်သည် အလွန်အံ့ဩသွားမိလေသည်။

"လူကြီးမင်းခင်ဗျား၊ လူကြီးမင်းဟာ ဘော့ဆွာနာ သမ္မတနိုင်ငံတော်အတွင်းကို တရားမဝင်ခိုးဝင်လာပါတယ်။ ဒါကြောင့် လူကြီးမင်းကို ကျွန်တော်တို့ဖမ်းဆီးရပါမယ်"

ပြောလိုက်သည့်အသံက ဗိုလ်ချုပ်ဖွန်ဂါဘီရာအသံနှင့် လုံးဝမတူသဖြင့် ခရိတ်ကအံ့ဩမိခြင်းဖြစ်ပေသည်။

"လူကြီးမင်း ကံကောင်းတယ်လို့ ဆိုရပါမယ်။ ကျွန်တော်တို့က ခင်ဗျားတို့နောက် ခြေရာခံလိုက်ခဲ့တာ မနေ့က ညနေသုံးနာရီလောက်က စပြီးလိုက်ခဲ့တယ်။ လူကြီးမင်းတို့နယ်စပ်ဖြတ်ကျော် လာခဲ့တဲ့နေရာကိုလည်း ကျွန်တော်တို့ တွေ့ရှိခဲ့ပြီးဖြစ်ပါတယ်"

ပြောရင်း ထိုလူက ရေဘူးတစ်ဘူးထုတ်ယူ၍ ခရိတ်၏ ပါးစပ်တွင်တေ့ပြီး ရေတိုက်ရာ ခရိတ်သည် ထိုလူ၏မျက်နှာကို အနီးကပ် ကြည့်လိုက်မိသည်။ သည်တော့မှ ပို၍ပင်အံ့အားသင့်သွားမိသည်။

ထိုလူက ဗိုလ်ချုပ်ဖွန်ဂါဘီရာမဟုတ်ဘဲ သူစိမ်းတစ်ယောက်ဖြစ်နေပေသည်။ ခရိတ်သည် လက်ထဲမှ လှံစွပ်ကိုလွှတ်ချလိုက်ပြီး ရေဘူးကိုဆွဲယူကာ အားပါးတရ ရေသောက်လိုက်သည်။ လင်းရိုဗာကို သေချာစွာကြည့်လိုက်သောအခါ ကား၏ဘေးတံခါးတွင် "ဘော့ဆွာနာနိုင်ငံရဲ့တံဆိပ် အမှတ်အသားကို တွေ့ရသဖြင့် အလွန်ထူးဆန်းသည်"ဟု ထင်မိလေသည်။

"ခင်ဗျား ခင်ဗျား ဘယ်သူလဲ"

"လူကြီးမင်းခင်ဗျား စကားမပြောပါနဲ့၊ လူကြီးမင်းနဲ့တကွ အမျိုးသမီးကို ကျွန်တော်တို့က အမြန်ဆုံး ဆေးရုံပို့ပေးဖို့ အရေးကြီးနေပါတယ်"

ထိုလူက ပြောသော်လည်း ခရိတ်သည် တိတ်တိတ်မနေနိုင်ဘဲ-

"ခင်ဗျားဟာ ပိုလ်ချုပ်ဖွန်ဂါဘီရာလည်း မဟုတ်ဘူး၊ ခင်ဗျား ဘယ်သူလဲ"ဟု ထပ်မေးလိုက်ပြန်သည်။

"ကျွန်တော်က ဘော့ဆွာနာနိုင်ငံရဲတပ်ဖွဲ့၊ နယ်ခြားကင်းတပ်ကပါ။ ကျွန်တော်နာမည် ဆာဂျင် ဆိုင်းမွန်လို့ခေါ်ပါတယ်။ လူကြီးမင်း ခင်ဗျား"

အရပ်မြင့်မြင့်နှင့်လူက ရည်မွန်စွာ ပြန်ပြောလိုက်သည်။

ပိုလ်မှူးကြီးဘူခါရင်သည် ငယ်စဉ်ကလေးဘဝကပင် သူ၏ဖခင်ကြီးနှင့်အတူ တောလိုက်အမဲပစ်ခြင်း (အထူးသဖြင့် တောထဲမှ ဝံပုလွေများ လိုက်ပစ်ခတ်ခြင်း)များ၌ လိုက်ပါခဲ့ဖူးလေသည်။ ဤကား ရုရှ နိုင်ငံ၌ စစ်ကြီးမဖြစ်မီခေတ်ကဖြစ်သည်။ ရုရှပြည်နယ်ယူရယ်တောင်တန်းဒေသ ဝေးလံခေါင်းပါးသော ကျေးရွာများသို့ ဝံပုလွေများသည် အုပ်လိုက် ကျေးရွာများသို့ ဝင်၍အန္တရာယ်ပေးတတ်ကြ၍လည်း ဘူခါရင်၏ ဖခင်ကဲ့သို့ပုဂ္ဂိုလ်များက ဝံပုလွေများကို လိုက်လံပစ်ခတ်လေ့ ရှိကြခြင်းဖြစ်သည်။

ဘူခါရင်အနေဖြင့် ထိုစဉ်က အသက်ငယ်ရွယ်သူတစ်ဦး ဖြစ်နေလင့်ကစား အန္တရာယ်များသော ဝံပုလွေလိုက်ပစ်ခြင်းကို သဘောကျကာ စိတ်ပျော်ရွှင်မိနေခဲ့ပေသည်။ ဝံပုလွေသတ္တဝါကို လိုက်ပစ် ခြင်းသည် အခြားတိရစ္ဆာန်များအား တောလိုက်အမဲပစ်ခြင်းနှင့်မတူ။ အလွန်ပင် ကြောက်စရာ ကောင်းပေသည်။ အချိန်မရွေး လူကို အန္တရာယ်ပေးနိုင်သော တောရိုင်းသတ္တဝါဖြစ်၍ ဝံပုလွေ လိုက်ပစ်သူသည် အထူးပင်လျင်မြန်ဖျတ်လက်ပြီး ဘေးရန်ကိုရှောင်နိုင်မှသာ မုဆိုးကောင်း တစ်ဦး ဖြစ်နိုင်ပေသည်။

ယင်းငယ်စဉ်က အတွေ့အကြုံကြောင့် ပိုလ်ချုပ်မှူးကြီး (ကာနယ်)ဘူခါရင်သည် မျက်စိလျင်ခြင်း၊ အနံ့ခံတတ်ခြင်း မုဆိုးကောင်းတို့၏ အရည်အချင်းများနှင့် ပြည့်စုံခဲ့ပေသည်။ ယခုလူကြီးတစ်ယောက် ဖြစ်လာချိန်တွင်ပင် သူငယ်စဉ်ကဝံပုလွေလိုက်ပစ်ခြင်း၊ အတွေ့အကြုံကြောင့်ရရှိခဲ့သောမုဆိုးကောင်း အရည်အချင်း ပြည့်စုံလျက်ပင် ရှိသေးပေသည်။ ယခုဆိုလျှင် သူသည် အသက်ခြောက်ဆယ့်နှစ်နှစ် ရှိနေပေပြီ။

ကာနယ်ဘူခါရင်၏ နောက်အရည်အချင်းတစ်ခုကား မှတ်ဉာဏ်အလွန်ကောင်းခြင်း ပင်ဖြစ်သည်။ အချက်အလက်များကို သူ၏ဦးနောက်ထဲ မှတ်သားစုဆောင်းထားရာ၌ ကွန်ပျူတာစက်သကဲ့သို့ပင် အချိန်မရွေး တိတိကျကျ ဖော်ထုတ်နိုင်စွမ်း ရှိပေသည်။

ယင်းသို့ အရည်အချင်းထူးချွန်မှုကြောင့်လည်း ယခုအခါကာနယ်ဘူခါရင်သည် ဆိုဗီယက် ထောက်လှမ်းရေး၏ အမှတ်(၇)သို့မဟုတ် သတ္တမဌာနခွဲတွင် အထူးတာဝန်ပေးအပ်ခြင်းခံခဲ့ရပေသည်။ ဤဌာနခွဲ၏ အဓိကအလုပ်မှာ ငယ်စဉ်ကလို တောလိုက်အမဲပစ်ခြင်းနှင့် ခပ်ဆင်ဆင်တူသော်လည်း၊ ယခု အမဲလိုက်ရသည်မှာ တောရိုင်းတိရစ္ဆာန်များမဟုတ်၊ လူသတ္တဝါဖြစ်ပေသည်။ တောရိုင်းတိရ္ဆာန်များ ထက် ပို၍ကြောက်စရာကောင်းသော လူကို အမဲလိုက်ရခြင်းပင် ဖြစ်သည်။

သူ၏ အလုပ်တာဝန်ဝတ္တရားကြောင့် ကာနယ်ဘူခါရင်သည် ကေဂျီဘီနှင့်ဂျီအာရ်ယူစသော ဆိုဗီယက် ထောက်လှမ်းရေး အဖွဲ့အစည်းများမှ ထိပ်သီးအရာရှိကြီးများနှင့် သိကျွမ်းရင်းနှီးသူ ဖြစ်ပေသည်။ ဆိုဗီယက်ရုရှားတွင် ထိပ်သီးအရာရှိကြီးများ အပျင်းပြေအမဲလိုက်ပစ်ရန် ဝက်ဝံနှင့်တောဝက်များပေါ သောသီးသန့်တောများရှိရာသို့ ကာနယ်ဘူခါရင်သည် မကြာခဏထောက်လှမ်းရေးအရာရှိကြီးများနှင့် အတူ တောလိုက်အမဲပစ်ရာသို့ လိုက်ပါရတတ်လေသည်။

တောဝက်နှင့် ဝက်ဝံတို့သည် လူကိုအန္တရာယ်ပေးနိုင်သော သတ္တဝါများဖြစ်ပေရာ ဘူခါရင်သည် ရံဖန် ရံခါ ထောက်လှမ်းရေးအရာရှိကြီးများ ထိတ်လန့်အောင် ခြောက်လှန့်သည့်အနေဖြင့် သားကောင်များ ရှိရာ နေရာသို့ရောက်၍ ပုန်းအောင်းနေခိုက် ဆိတ်ငြိမ်စွာနေရမည့်အချိန်မျိုးတွင် သေနတ်ပစ်ဖောက် လေ့ရှိလေသည်။ သေနတ်သံကြောင့် တိရစ္ဆာန်များသည် ရန်သူ(လူ)ကို တရကြမ်းလိုက်ရာသဖြင့် အရာရှိကြီးများ ထိတ်လန့်ချောက်ချားကြသည်ကိုကြည့်ပြီး ဘူခါရင်က သဘောကျလေ့ရှိပေသည်။ သူကိုယ်တိုင်ကလည်း ဘေးအန္တရာယ်နီးကပ်ခြင်းကို သာယာလေ့ရှိသည်။ ရင်တဖိုဖိုနှင့် အန္တရာယ် ရှောင်ရသည်ကို ပျော်စရာကောင်းသည်ဟု ထင်မိသည်။

ယခုသူ့အား ဖင်ဘာဘွေနိုင်ငံတွင် လျှို့ဝှက်သောတာဝန်တစ်ခုပေးလိုက်ချိန်၌ ကာနယ်ဘူခါရင်သည် ယင်းတာဝန်မှာ မည်မျှအရေးကြီးကြောင်း ချင်းချင်းသဘောပေါက်မိလေသည်။ အန္တရာယ်များလင့် ကစား အလွန်အရေးကြီးသဖြင့် ယင်းတာဝန်ပေးအပ်ခံရသည်ကို ဂုဏ်ယူမိလေသည်။ ဖင်ဘာဘွေ နိုင်ငံသို့ ရုရှလူမျိုးတစ်ဦးအဖြစ် လာရောက်ရာတွင် မည်သူကမှ သူ့အပေါ်သံသယမရှိအောင် ထိမိပြီး သဘာဝကျသော ဟန်ပြလုပ်ငန်းတစ်ခုပြရန် လိုအပ်လေရာ ဘူခါရင်က ယင်း ဟန်ပြအလုပ်ကို

သူကိုယ်တိုင် သဘောကျဝါသနာပါသည့် အလုပ်လည်းဖြစ်အောင် စိတ်ကြိုက် ရွေးချယ်ခဲ့လေသည်။ မျက်နှာဖြူ အုပ်စိုးမှုလက်အောက်မှ လွတ်မြောက်ကာစ ဖင်ဘာဘွေသမ္မတနိုင်ငံတွင် တိုင်းရင်းသား ပြည်သူအများစုက ရှုရှုလူမျိုးများ(အထူးသဖြင့်ရာထူးကြီးကြီး ထိပ်သီးအရာရှိများ)ကို မယုံသင်္ကာဖြစ် တတ်ကြပေသည်။ သံသယရှိတတ်သည်။ ဤသည်မှာလည်း အကြောင်းရှိပေသည်။

ဇင်ဘာဘွေနိုင်ငံတွင် တိုင်းရင်းသားလူမည်းများက မျက်နှာဖြူအစိုးရအား တော်လှန်တိုက်ခိုက်ခဲ့သော တော်လှန်ရေးစစ်ပွဲကာလအတွင်းက ဆိုဗီယက်ရုရှားအနေဖြင့်ဝင်ရောက်စွက်ဖက်တပည့်မွေးအားပေး ကူညီရာ၌ မှားယွင်းချက်တစ်ခု ရှိခဲ့သည်။ ယင်းကား ရုရှားက တပည့်မွေးကူညီရာ၌ အုပ်စုမှားပြီး အားပေးခဲ့မိခြင်းပင်ဖြစ်သည်။ ထိုအုပ်စုမှာ နီကိုမိုဆိုသူ ခေါင်းဆောင်သော ဇီပရာပါတီဝင် ဖြစ်သည်။ နီကိုမို ခေါင်းဆောင်သော အုပ်စုမှာ မာတာဘယ်လီ တိုင်းရင်းသားတို့၏ အုပ်စုပင် ဖြစ်သည်။ ရုရှက ထိုအုပ်စုကို ထောက်ခံအားပေးသည်။ တရုတ်တို့က လက်ရှိဝန်ကြီးချုပ်မူဂါဘီ၏အုပ်စု(ရှိုနာတိုင်းရင်း သားများအုပ်စု)ကို ထောက်ခံအားပေးခဲ့သည်။

တော်လှန်ရေးစစ်ပွဲပြီး၍ ဇင်ဘာဘွေနိုင်ငံ လွတ်လပ်လာသောအခါ မူဂါဘီ၏ရှိုနာလူမျိုးများ(လူဦးရေ အချိုးအရအများစုဖြစ်သည့်အုပ်စု)က အစိုးအာဏာရလာခဲ့လေရာ ထိုအစိုးရအနေဖြင့် ရုရှကို နယ်ချဲ့ သမားအသစ်(သို့မဟုတ်)ရန်သူဟု သဘောထားပြီး တရုတ်တို့ကိုသာ ဇင်ဘာဘွေ တော်လှန်ရေး၏ မိတ်ဆွေစစ်များဟုသတ်မှတ်ခဲ့လေသည်။ အထက်ပါအခြေအနေကြောင့် ကာနယ်ဗိုလ်မှူးကြီးဘူခါရင် သည် ဇင်ဘာဘွေနိုင်ငံသို့ ဝင်ရောက်ရာတွင် ဖင်လန်နိုင်ငံသားတစ်ဦး ဟန်ဆောင်ကာ ဖင်လန်ပတ်စ် ပို့ဖြင့် ဝင်ရောက် လာခဲ့ပေသည်။

ကံအားလျော်စွာ သူသည်ဖင်လန်ဘာသာစကားကို ကျွမ်းကျင်စွာတတ်မြောက်သူဖြစ်နေခြင်းကြောင့် အဆင်ပြေနေပေသည်။ ပတ်စ်ပို့တွင်လည်း သူ၏နာမည်ရင်းမဟုတ်ဘဲ အခြားနာမည်တစ်ခုရေးထည့် ထားလိုက်သည်။ ဇင်ဘာဘွေနိုင်ငံတွင်းသို့ ချောမောစွာဝင်ရောက်နိုင်ခဲ့ပြီးနောက် ဟာရာရေမြို့တော် မှ မကြာခင် နယ်အသီးသီးနှင့်ကျေးလက်ဒေသများသို့ လွတ်လပ်စွာသွားလာ လှုပ်ရှားနိုင်ရန်အတွက် သဘာဝကျပြီး ယုတ္တိတန်မည့်အလုပ်တစ်ခု ဟန်ပြအဖြစ်ဖန်တီးရန် လိုအပ်လေသည်။

ဤအချက်ကား အထူးအရေးကြီးပေသည်။ သူနှင့် လျှို့ဝှက်စွာဆက်သွယ်ရမည့် အဆက်အသွယ် ပုဂ္ဂိုလ်နှင့်လူမသိအောင်တွေ့ဆုံနိုင်ရန် ကျေးလက်ဒေသသို့သွားနိုင်မှ ဖြစ်ပေမည်။ ဘူခါရင်သည် ရုရှ လူမျိုးဖြစ်သော်လည်း ဖင်လန်ဘာသာအပြင် နိုင်ငံခြားဘာသာငါးမျိုး (အင်္ဂလိပ်စကားအပါအဝင်)

ကျွမ်းကျင်စွာ တတ်မြောက်ခြင်းကလည်း ယခု ဇင်ဘာဘွေနိုင်ငံသို့ လာရောက်ရသည့် တာဝန်အတွက် အထောက်အကူ ဖြစ်ပေသည်။

အာဖရိကတိုက်ရှိ သမ္မတနိုင်ငံအတော်များများသည် ကမ္ဘာ့ဘဏ်၊ အပြည်ပြည်ဆိုင်ရာ ငွေကြေးအဖွဲ့ ချုပ်စသော နိုင်ငံတကာ ဖွဲ့အစည်းအသီးသီး၏ တိုက်တွန်းချက်ဖြင့် တောရိုင်းတိရစ္ဆာန် (ကျား၊ ဆင်၊ ခြင်္သေ့စသော)အကြီးများ သတ်ဖြတ်ခြင်းကို ဥပဒေဖြင့်ပိတ်ပင်တားမြစ်ထားသော်လည်း ဇင်ဘာဘွေ နိုင်ငံတွင်မူ ကြေးစားမုဆိုးအချို့အားတရားဝင်အမဲပစ်လိုင်စင် ထုတ်ပေးနေဆဲဖြစ်ပေသည်။ သို့သော် တိရစ္ဆာန်များပစ်ခတ်ရန်နေရာကိုတော့ ကန့်သတ်ထားသဖြင့် သတ်မှတ်ထားသည့်တောများတွင်သာ ပစ်ခတ်ခွင့် ရှိလေသည်။ အမှန်တော့ ယင်းသို့ မုဆိုးလိုင်စင် ကန့်သတ်၍ ထုတ်ပေးခြင်းအကြောင်းမှာ တိရစ္ဆာန်ထွက်ပစ္စည်း (ဆင်စွယ်၊ ကြံ့ချို၊ ကျားသစ်ရေ စသည်)များ ပြည်ပသို့ ရောင်းချခြင်းအားဖြင့် နိုင်ငံခြားသုံးငွေ(ဒေါ်လာ)ရရှိခြင်းကြောင့်ပင် ဖြစ်သည်။

ဗိုလ်မှူးကြီးဘူခါရင်သည် ဖင်လန်နိုင်ငံ၏မြို့တော် ဟယ်လ်ဆင်ကီမှ သစ်ကုန်သည်ကြီးတစ်ဦးအဖြစ် ဟန်ဆောင်ပြီး ဇင်ဘာဘွေနိုင်ငံသို့ ခပ်တည်တည်ဝင်ခဲ့လေသည်။ သစ်ကုန်သည် ဟန်ဆောင်လာခဲ့ ခြင်းအကြောင်းမှာ ငယ်စဉ်ကပင် ဝါသနာပါခဲ့သော တောလိုက်အမဲပစ်ခြင်းကို ဇင်ဘာဘွေနိုင်ငံတွင် ပြန်လည်လေ့ကျင့်လို၍လည်းဖြစ်သည်။ သစ်ကုန်သည်အနေဖြင့်ကျေးလက်ဒေသများ၊ သစ်တောများ ရှိရာသို့ သွားရောက်ရန် အကြောင်းခိုင်လုံသဖြင့် ဟာရာရေမြို့တော် ပြင်ပသို့ထွက်လျှင် ယုတ္တိရှိမည်။ သဘာဝကျမည်ဖြစ်သောကြောင့် သူဝါသနာပါသော တောလိုက်အမဲပစ်ခြင်းကိုလည်း ပြုလုပ်နိုင်မည် ဖြစ်ပေသည်။
စင်စစ်အားဖြင့် တောလိုက်အမဲပစ်ခြင်းသည် အရင်းရှင်စနစ်ကျင့်သုံးနေသေးသော ဇင်ဘာဘွေ နိုင်ငံမှ အထက်တန်းလွှာကြေးရတတ်များအတွက် သီးသန့်ထားရှိခြင်းပင် ဖြစ်ပေသည်။ သို့သော်လည်း ဆိုဗီယက်နိုင်ငံသား ဗိုလ်မှူးကြီးဘူခါရင်ကတော့ တောလိုက်အမဲပစ်ခြင်းကို နဂိုက ဝါသနာပါသည့် အလျောက် အလွန်နှစ်သက် သဘောကျခဲ့မိလေသည်။ ယခု သူ့အား ဇင်ဘာဘွေနိုင်ငံတွင် လျှို့ဝှက်စွာ ဆောင်ရွက်ရန် တာဝန်ပေးလိုက်သော အလုပ်အတွက် သတ်မှတ်ပေးလိုက်သည့် ဘတ်ဂျက်ရန်ပုံငွေကမများလှသဖြင့် တောလိုက်အမဲပစ်ထွက်လျှင် ကုန်ကျမည့်စရိတ်စကသုံးရန် လုံလောက်ခြင်းမရှိချေ။ သို့သော်လည်း ဘူခါရင်၏ကွန်တက်(လျှို့ဝှက်ဆက်သွယ်သူ)ဝန်ကြီး ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် အလွန်ချမ်းသာကြွယ်ဝသူဖြစ်ပြီး သူ၏ဘဝအခြေအနေ တိုးတက်ရန်အတွက် ရည်မှန်းချက်ကြီးမား သူဖြစ်သည်။

မိမိတို့နှင့် လျှို့ဝှက်ဆွေးနွေးရန်အတွက် တွေ့ဆုံနိုင်မည့် အစီအစဉ်ကို ညှိနှိုင်းတိုင်ပင်ကြသောအခါ ဗိုလ်ချုပ်ဖွန်ဂါဘီရာကပင် သားရဲတိရစ္ဆာန်များအား အမဲလိုက်ပစ်ထွက်ကြရင်း တွေ့ဆုံဆွေးနွေးလျှင် ကောင်းသည်ဟု စတင်အကြံပေးလေသည်။

ယင်းအစီအစဉ်အရဆိုလျှင် ဖွန်ဂါဘီရာကအိမ်ရှင်ဖြစ်၍ ကုန်ကျစရိတ်အားလုံးကို သူ့အနေဖြင့်ကျခံရမည်ဖြစ်သည်။ တောလိုက်ထွက်လျှင် ကုန်ကျစရိတ်မှာ တစ်နေ့လျှင် ဒေါ်လာတစ်ထောင်ခန့်ရှိရာ ထိုငွေကို ဖွန်ဂါဘီရာက လက်ငင်းစိုက်ထုတ်ကုန်ကျခံရမည် ဖြစ်သည်။ ဗိုလ်မှူးကြီး ဘူခါရင်သည် ယင်းအစီအစဉ်ကို အလွန်နှစ်ခြိုက်သဘောကျသဖြင့် ချက်ချင်းပင် လက်ခံသဘောတူလိုက်လေသည်။ တောတွင်းတစ်နေရာရှိ မြေကွက်လပ်တစ်ခုတွင်ရပ်ရင်း ဗိုလ်မှူးကြီး ဘူခါရင်သည် ဗိုလ်ချုပ်ဖွန်ဂါဘီရာဆိုသူအား အကဲခတ် ကြည့်မိလေသည်။ သူတို့သည် ကျွဲရိုင်းအထီးကြီးတစ်ကောင်ကို လိုက်လံပစ်ခတ်နေရာမှ ဘူခါရင်က ကျွဲထီးကြီးအား ဒဏ်ရာရအောင် တမင်တကာ ချိန်၍ပစ်ခဲ့သည်။ စင်စစ်အားဖြင့် ဘူခါရင်သည်အတွေ့အကြုံဝါရင့်သလောက် သေနတ်ပစ်ရာ၌ အလွန်လက်ဖြောင့်သူဖြစ်သည်။ ပစ္စတို၊ ခြောက်လုံးပြူး ရိုင်ဖယ်နှင့် အမဲပစ်သေနတ်စသော လက်နက်မျိုးစုံကိုကျွမ်း ကျင်စွာကိုင်တွယ်၍ပစ်ခတ်ရာ၌ မလွဲတမ်း ပစ်နိုင်ပေသည်။

ယခုပစ်မှတ်ဖြစ်သော သားကောင်နှင့် အကွာအဝေးကလည်း ကိုက်သုံးဆယ်မျှသာရှိရာ ဘူခါရင်အနေနှင့် တစ်ချက်တည်းဖြင့်သားကောင်သေသွားအောင်ပစ်နိုင်ပေသည်။ သို့သော် သူသည်အိမ်ရှင်ဖြစ်သူဖွန်ဂါဘီရာအတွက် ပစ်စရာချန်သည့်အနေဖြင့် ကျွဲထီးကြီး၏ဦးခေါင်းကိုမပစ်ဘဲ ဝမ်းဗိုက်ကိုသာ ချိန်၍ပစ်လိုက်သည်။ ဝမ်းဗိုက်ဆိုသော်လည်း ချက်ချင်းသေနိုင်သောနေရာမျိုး (အဆုတ်၊ နှလုံးစသည်)ကို မထိမှန်အောင် အထူးသတိထားကာ ချိန်ပစ်လိုက်ခြင်းပင် ဖြစ်ပါသည်။

သားရဲတိရစ္ဆာန်တို့ သဘာဝအရ သေနတ်ထိမှန် ဒဏ်ရာရသည့်အခါ လူဘက်သို့ပြေး၍ ရန်မူခတ်တတ်သောကြောင့် အလွန် အန္တရာယ်ရှိပေသည်။ သို့သော် ဘူခါရင်၏ သေနတ်ကျည်ဆန် ထိမှန်ထားခြင်းကြောင့် လျင်မြန်သွက်လက်စွာ မပြေးနိုင်တော့ချေ။ နှစ်ယောက်သား ခေတ္တရပ်နားကြရင်း ဗော့ဒ်ကာ (ရုရှအရက်) တစ်ခွက်စီ သောက်ကြလေသည်။

ဘူခါရင်သည် အသင့်ယူဆောင်လာသော ခရီးဆောင်ရေဘူးဖြူထဲမှ ဗော့ဒ်ကာအရက်ကို ခွက်ထဲတွင်ထည့်၍ ဖွန်ဂါဘီရာအား လှမ်းပေးလိုက်သည်။ သူကိုယ်တိုင် အရက်ခွက်ကို ကိုင်မြှောက်၍ အနောက်တိုင်း ယဉ်ကျေးမှုထုံးစံအရ-

"နာ…ဖိုဒိုပေ"ဟု ရုရှဘာသာဖြင့် ဆုတောင်းပြီးမှမော့ကာ သောက်ချလိုက်သည်။ သူ၏ မျက်နှာက လည်း ပြုံးနေသည်။ ပြီးတော့ ဗိုလ်ချုပ်ဖွန်ဂါဘီရာအား လှမ်းကြည့်လိုက်သည်။ သပ်ရပ်စွာ မီးပူတိုက် ထားသော စစ်မြေပြင်ဝတ် ယူနီဖောင်းဝတ်ရုံဝတ်ဆင်ထားသူ ဖွန်ဂါဘီရာသည် အလွန်တင့်တယ် ခံ့ညားနေပေသည်။ လည်ပင်းတွင် ကာကီရောင်လည်စီးတစ်ခု စည်းထားပြီး ဦးခေါင်းတွင်မူ ဦးထုပ် ဆောင်းမထားသဖြင့် တတိယတပ်မဟာ အမှတ်တံဆိပ်လည်းမရှိပေ။

ဦးထုပ်ဆောင်းမထားခြင်းမှာ ဦးထုပ်မှတံဆိပ်သည် သတ္တုဖြင့်ပြုလုပ်ထား၍ နေရောင်တွင် တဖျပ်ဖျပ် လက်နေမည်ဖြစ်သောကြောင့် သားကောင်တိရစ္ဆာန်များ လူလာနေကြောင်း မသိစေရန်ဖြစ်ပေသည်။ ဗိုလ်ချုပ်ဖွန်ဂါဘီရာကလည်း အရက်ခွက်ကိုင်ထားရင်း ကာနယ်ဘူခါရင်အား လှမ်းအကဲခတ်ကြည့် လိုက်သည်။ ဩဇာလွှမ်းမိုးနိုင်သည့် အသွင်ဆောင်သော အင်္ဂါရုပ်ရှိသူ ရုရှလူမျိုး ဘူခါရင်အား ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် သဘောကျမိပေသည်။ ဩဇာလွှမ်းမိုးနိုင်လောက်အောင် စိတ်ဓာတ်ပြင်း ထန်ခိုင်မာသူတစ်ဦးဖြစ်ဟန်တူသည့်ပြင် အရေးရှိလျှင်ရက်စက်ကြမ်းကြုတ်ရန်ဝန်လေးမည့်သူမဟုတ် ဟုလည်း ဖွန်ဂါဘီရာက စိတ်ထဲမှ ဘူခါရင်အား အကဲဖြတ်မိသည်။

ယင်းအရည်အချင်းသည်ပင်လျှင် မိမိတို့အာဖရိကတိုင်းရင်းသားများနှင့် တူနေသည်ဟုလည်း ယူဆမိ သည်။ ဒီလူကြီးဟာလည်း ငါတို့လို လူတစ်ယောက်ပါလားဟုလည်း အကဲဖြတ်မိသည်။ ဤသို့လျှင် ဗိုလ်မှူးကြီး ဘူခါရင်အား အကဲဖြတ်ပြီးနောက် ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် ဗော့ဒ်ကာ အရက်ခွက်ကို မော့သောက်ချလိုက်သည်။

"ဗိုလ်ချုပ်က ယောကျ်ားပီပီ သောက်နိုင်သားပဲ"

ဘူခါရင်က ဗိုလ်ချုပ် ဖွန်ဂါဘီရာ အရက်သောက်ပုံကို ကြည့်၍ ချီးကျူးပြောဆိုလိုက်သည်။

ဗိုလ်ချုပ်ဖွန်ဂါဘီရာသည်သူ့အား ရုရှလူမျိုးဘူခါရင်ကအရည်အသွေးစမ်းသည့်သဘောဖြင့်ဗော့ဒ်ကာ အရက်တိုက်ခြင်းဖြစ်ကြောင်းကိုလည်းကောင်း ဒဏ်ရာရနေသောကျွဲထီးကြီးအား ခြေရာခံ၍လိုက်ပြီး အသေပစ်ရန် မိမိအားစိန်ခေါ်ခြင်းဖြစ်သည်ကိုလည်းကောင်း ရိပ်မိလေသည်။ ထို့ကြောင့် ဖွန်ဂါဘီရာ ကလည်း ကျွဲရိုင်းကြီးကို တစ်ချက်တည်းနှင့် အသေပစ်သတ်ပြရန် ဆုံးဖြတ်လိုက်ပြီး ဘူခါရင်တိုက် သော ဗော့ဒ်ကာအရက်ကို ချက်ချင်း မော့သောက်ပြလိုက်ခြင်း ဖြစ်သည်။ ဗိုလ်မှူးကြီး ဘူခါရင်သည် မိမိတို့ငှားရမ်းထားသော ကြေးစားမှဆိုးကိုလှမ်းခေါ်၍ ဆက်လက်တောလိုက်ရန် အစီအစဉ်များ အကြောင်း ဆွေးနွေးလေသည်။

ကြေးစားမုဆိုးမှာ အသက်သုံးဆယ်ကျော် လေးဆယ်အတွင်းရှိ အာဖရိကတိုက်ဖွား မျက်နှာဖြူလူမျိုး တစ်ဦးဖြစ်သည်။ ခေါင်းပေါ်တွင် ဦးထုပ်ကြီးကြီး ဆောင်းထားပြီး ကာကီရောင်အင်္ကျီ၊ ဘောင်းဘီများ ဝတ်ဆင်ထားပေသည်။ သူ၏ ရင်ဘတ်တွင်ကား သားရဲတိရစ္ဆာန်အကောင်ကြီးများ ပစ်ခတ်ရာတွင် အသုံးပြုရသည့် ကျည်ဆန်သားရေခါးပတ်ကို ကျည်ဆန်အိတ်နှင့် လွယ်ထားပေသည်။ မုတ်ဆိတ်မွေး ရှည်ရှည်ထားသော သူ၏မျက်နှာမှာမူ ကြည်လင်ရွှန်လန်းပုံမရဘဲ ခပ်မှိုင်မှိုင်ဖြစ်နေလေသည်။

သူ၏ မျက်နှာမရွှင်လန်းခြင်းမှာလည်း အကြောင်းရှိပေသည်။ ကျွဲရိုင်းတိရစ္ဆာန်များသည် သေနတ် ကျည်ဆန်ထိမှန်၍ ချက်ချင်းမသေဘဲ ဒဏ်ရာရရှိလျှင် မည်မျှအန္တရာယ်ကြီးမားလှကြောင်း မျက်နှာဖြူ မုဆိုးက ကောင်းစွာသိသဖြင့် စိုးရိမ်ပူပန်ပြီး မျက်နှာမရွှင်ဘဲ ခပ်မှိုင်မှိုင် ဖြစ်နေပေသည်။

"ဗိုလ်ချုပ် ဖွန်ဂါဘီရာက ပွိုင့် ၄၅၈သေနတ်ကို ကိုင်လိမ့်မယ်"

ဗိုလ်မှူးကြီး ဘူခါရင်က ပြောလိုက်ရာ မျက်နှာဖြူမုဆိုးက ခေါင်းညိတ်လိုက်သည်။

ပွိုင့် ၄၅၈ ဆိုသည်မှာ ကျား၊ ဆင်၊ ခြင်္သေ့ စသော သားရဲတိရစ္ဆာန် အကောင်ကြီးများကို ပစ်ရာတွင် အသုံးပြုရသော အလွန်ပြင်းထန်သည့် သေနတ်အမျိုးအစားဖြစ်သည်။ စင်စစ်အားဖြင့် ယခု မိမိတို့ ခြေရာခံလိုက်ပစ်ကြရမည့် ကျွဲရိုင်းအထီးကြီးသည် ဒဏ်ရာရနေပြီဖြစ်၍ ပွိုင့် ၄၅၈ လို အင်အားကြီး သေနတ် လက်နက်မလိုပါချေ။ သို့စဉ်လျက် ဤရုရှလူမျိုး အဘိုးကြီးက ဗိုလ်ချုပ် ဖွန်ဂါဘီရာအား ပွိုင့် ၄၅၈ သေနတ်ကိုင်စေရန် စီစဉ်သည်ကို မျက်နှာဖြူမုဆိုးမှာ နားမလည်နိုင်အောင် ဖြစ်နေတော့သည်။ သို့ရာတွင် 'ကြေးစားမုဆိုး'အနေဖြင့် မိမိတာဝန်မှာ ငှားရမ်းသူ'အလုပ်ရှင်'၏ ဆန္ဒကိုလိုက်နာရန်သာ အဓိကဖြစ်သောကြောင့် သေနတ်လက်နက်များကိုင်၍လိုက်ပါသူ တိုင်းရင်းသားလူမည်း အလုပ် သမားတစ်ဦးအား လှမ်းခေါ်၍ ပွိုင့် ၄၅၈ သေနတ်ကြီးကို ယူလာစေလိုက်သည်။

"ကျုပ်နဲ့ ဗိုလ်ချုပ် ဖွန်ဂါဘီရာတို့ နှစ်ယောက်တည်းပဲ ကျွဲထီးကြီးနောက် လိုက်ကြမယ်။ ခင်ဗျားက သေနတ်ကိုင်တဲ့ အလုပ်သမားတွေနဲ့အတူ ဒီမှာပဲ နေရစ်ရမယ်"

ဘူခါရင်ကပြောလိုက်ရာ မုဆိုးသည်အံ့သြမိသလောက် စိုးရိမ်သွားမိသည်။ ဒဏ်ရာရနေသူကျွဲရိုင်းကြီး နောက်ခြေရာခံလိုက်ခြင်းသည် မည်မျှအန္တရာယ်ကြီးမားကြောင်း သူကောင်းစွာသိသဖြင့် စိုးရိမ်မိခြင်း ဖြစ်သည်။ ထို့ကြောင့်မိမိလိုကြေးစားမုဆိုးအနေဖြင့် တာဝန်ရှိသည်ဟုယူဆကာကန့်ကွက်လေသည်။

"ကျွန်တော့်အနေနဲ့ လူကြီးမင်းတို့ နှစ်ယောက်တည်းသွားတာကို သဘောမတူနိုင်ဘူးခင်ဗျ။ တစ်စုံတစ်ခုဖြစ်ရင် ကျွန်တော့်မုဆိုးလိုင်စင် ပြုတ်သွားပါလိမ့်မယ်"

သို့သော် ဗိုလ်မှူးကြီး ဘူခါရင်က-

"ခင်ဗျား ဘာမှ ဝင်ပြောစရာမလိုဘူး"ဟု ခပ်တည်တည် ဟန့်လိုက်သည်။

"ဒါပေမဲ့ လူကြီးမင်းခင်ဗျား အလွန်အန္တရာယ်များလို့ ကျွန်တော်က ပြောရတာပါ"

"ဘာမှ ဝင်ပြောစရာမလိုဘူးလို့ ကျုပ်ပြောထားပြီ မဟုတ်လား"

ဘူခါရင်က မျက်နှာထား ခပ်တင်းတင်းဖြင့် ပြောလိုက်လျှင် ကြေးစားမုဆိုးမှာ ဘာမှဆက်မပြောတော့ဘဲ ဆိတ်ဆိတ် နေလိုက်တော့သည်။

သူသည် ဘူခါရင်၏ စူးရှသောမျက်လုံးများနှင့်မျက်နှာထား အမူအရာကိုကြည့်ပြီး ကျောချမ်းသွားမိလေသည်။ ဤရုရှလူမျိုးကား အလွန်ကြောက်စရာကောင်းသော လူတစ်ယောက်ပါတကားဟုလည်း စိတ်ထဲမှ မှတ်ချက်ချမိသည်။ သူ၏ မုဆိုးလိုင်စင် ရုပ်သိမ်းခံရမည်ကို စိုးရိမ်မိသည်ထက် ဤရုရှကြီး စိတ်ဆိုးမှာကို ပို၍ကြောက်မိလေသည်။ ထို့ကြောင့် သူသည်ဘာမှဆက်မပြောဘဲ အသာငြိမ်နေလိုက်ခြင်း ဖြစ်သည်။

ဘူခါရင်သည် လူမည်းအလုပ်သမားထံမှ ပွိုင့် ၄၅၈ သေနတ်ကြီးကိုယူ၍ ကျည်ဆန်များထိုးထားခြင်းကို သေချာစွာ စစ်ဆေးကြည့်ပြီးမှ ဗိုလ်ချုပ်ဖွန်ဂါဘီရာအား လှမ်းပေးလိုက်သည်။ ဖွန်ဂါဘီရာသည် သေနတ်ကိုယူပြီး လက်တွင်ဆကြည့်လေသည်။ ထို့နောက်ချက်ချင်းပင် သေနတ်ကို အလုပ်သမားလက်သို့ ပြန်ပေးလိုက်ပြီး ပြုံးလိုက်သည်။ ဗိုလ်မှူးကြီး ဘူခါရင်ကလည်း ဗိုလ်ချုပ်၏ အပြုအမူကို ကြည့်ပြီးပြုံးလိုက်သည်။ သို့သော် ပြုံးပုံကသရော်သလို ဟန်မျိုးဖြစ်နေသည်။

ဗိုလ်ချုပ် ဖွန်ဂါဘီရာသည် သေနတ်ကိုင်သူ လူမည်းအလုပ်သမားအား-

"အေးဟီး မန်ဘိုး"ဟု ရှိုနာဘာသာဖြင့် ပြောလိုက်ရာ အလုပ်သမားသည် လျင်မြန်ဖျတ်လတ်စွာ ပြေးထွက်သွားပြီး နောက်ထပ်လက်နက်တစ်ခု ယူလာပေးသည်။ လက်နက်ကို ဗိုလ်ချုပ်ဖွန်ဂါဘီရာက လှမ်းယူလိုက်ပြီး လက်တွင်ချိန်ဆကြည့်လေသည်။ လက်နက်ကား 'အာဆီဗိုင်' ခေါ် တိုင်းရင်းသားတို့၏ ရိုးရာလက်နက် ဓားရှည်တစ်လက်ပင်ဖြစ်သည်။ ဓား၏ အရိုးလက်ကိုင်ကို သစ်မာတစ်မျိုးဖြင့် ပြုလုပ်ထားပြီး အပေါ်မှကြေးနီဝိုင်ယာကြိုးများ ရစ်ပတ်ထားသည်။ ဓား၏အသွားက နှစ်ဆနီးပါးရှည်

ပြီးပြက်လေးလက်မခန့်ရှိသည်။ ဓားသွားက အလွန်ထက်သည့်အလျောက် ဗိုလ်ချုပ် ဖွန်ဂါဘီရာသည် ဓားသွားဖြင့် သူ၏လက်မှမွေးညှင်းနများကို ရိတ်ပြလိုက်သည်။

ထို့နောက် သူသည် အင်္ကျီ၊ ဘောင်းဘီ၊ ဖိနပ်များကို ချွတ်ပစ်လိုက်သည်။ သူ၏ကိုယ်တွင် အတွင်းခံဘောင်းဘီတိုသာလျှင်ကျန်လေသည်။ သူသည် အာဆီဝိုင်တိုင်းရင်းသားရိုးရာဓားရှည်ကို ကိုင်လျက် ဘူခါရင်အားပြုံးကာ-

"ဒါမှ အာဖရိကတိုက်သားများရဲ့ အမဲလိုက်နည်းအစစ်ပဲ ဗိုလ်မှူးကြီးရဲ့"ဟုပြောလိုက်သည်။ သို့သော် ဗိုလ်မှူးကြီး ဘူခါရင်က မပြုံးချေ။

ဤတွင် ဖွန်ဂါဘီရာက ဆက်လက်၍-

"ဗိုလ်မှူးကြီးရဲ့ အသက်အရွယ်နဲ့တော့ ကျုပ်တို့ အာဖရိကတိုက်သားများရဲ့နည်းနဲ့ အမဲလိုက်ဖို့မလိုပါဘူး။ ဒါကြောင့် ဗိုလ်မှူးကြီးက ရိုင်ဖယ်သေနတ်ကိုပဲသုံးနိုင်ပါတယ်"ဟု ပြောလိုက်သည်။

ဗိုလ်မှူးကြီး ဘူခါရင်က ခေါင်းညိတ်လိုက်သည်။ သူ၏ စိတ်တွင်ကား ယခုကိစ္စတွင် ဖွန်ဂါဘီရာက မိမိအပေါ်တစ်ချီတစ်မောင်းအနိုင်ယူသွားပြီဟု အောက်မေ့မိလေသည်။ သို့သော် ဤအာဖရိကတိုက်သား ကပ္ပလီလူမည်းသည် အပြောကြီးသလောက် တကယ်အမဲလိုက်ရာ၌ တကယ်အစွမ်းပြနိုင်ခြင်းရှိမရှိ စောင့်ကြည့်ရသေးတာပေါ့ဟု စိတ်ထဲမှ ကျိတ်၍စိန်ခေါ်သလို ဆုံးဖြတ်လိုက်မိသည်။

ဒဏ်ရာရသွားသူ ကျွဲရိုင်းကြီးသည် သွေးရူးသွေးတမ်းနှင့် ပြေးသွားသည်မှာ အတော်ကြာပြီဖြစ်၍ ခြေရာခံလိုက်ရန် မလွယ်ကူတော့ဟုလည်း ယူဆမိသည်။ ဘူခါရင်သည် မြေကြီးကို သေချာစွာကြည့်လိုက်ရာ ကျွဲရိုင်းကြီး၏ခြေရာများ ကောင်းစွာထင်ကျန်ရစ်ကြောင်း တွေ့ရလေသည်။

"ကျုပ်က ရှေ့က ခြေရာခံပြီးလိုက်မယ်။ ဗိုလ်ချုပ်က နောက်နားက ခပ်ခွာခွာလိုက်ပြီး ချက်ကောင်းကိုသာ စောင့်ပေတော့"

ပြောပြောဆိုဆို ဗိုလ်မှူးကြီးဘူခါရင်သည်ရှေ့ဆောင်လျက် ကျွဲခြေရာများကိုကြည့်ပြီး လျှောက်လိုက်သွားလေရာ ဗိုလ်ချုပ်ကလည်း ဓားရှည်ကိုင်လျက် နောက်မှလိုက်လေသည်။

ယခုဆိုလျှင် သူတို့သည် မြေကွက်လပ်မှ ချုံနွယ်ပိတ်ပေါင်းထူထပ်သော တောတွင်းသို့ဝင်ရောက်မိကြပြီဖြစ်သည်။ ပတ်ဝန်းကျင်တစ်ခုလုံး တိတ်ဆိတ်ငြိမ်သက်နေခြင်းကပင်လျှင် စိတ်ချောက်ချားဖွယ် ဖြစ်နေပေသည်။ မြေပြင်ပေါ်မှ သစ်ရွက်ခြောက်များသည် သာမန်အားဖြင့် လမ်းဖြတ်လျှောက်

သွားလျှင် အသံမြည်ကာ ခြေသံကြားရမည်ဖြစ်သော်လည်း ယခုတော့သစ်ရွက်ခြောက်များ စိုထိုင်းနေသဖြင့် သူတို့နှစ်ဦး၏ ခြေသံလုံးဝမကြားရချေ။

သို့ဖြစ်လင့်ကစား တစ်ခါတစ်ရံ ရုရှပိုလ်မှူးကြီးဘူခါရင်၏ ဘွတ်ဖိနပ်ကြီးဖြင့် ခပ်ကြမ်းကြမ်းနင်းလိုက်သောခြေသံက တိတ်ဆိတ်ခြင်းကို ဖောက်ထွင်းထွက်ပေါ်လာတတ်လေသည်။ အတန်ကြာအောင် ဆက်လျှောက်သွားမိသောအခါ ဘူခါရင်သည် မောပန်းစပြုလာလေသည်။ အသက်ကို ပြင်းပြင်းရှူလာလေသည်။ ချွေးပြန်၍ရုပ်အကျီပင်စိုရွှဲနေပြီဖြစ်သည်။ ပိုလ်မှူးကြီး ဘူခါရင်သည် စိတ်လှုပ်ရှားနေပုံရလေသည်။ သို့သော် စိတ်လှုပ်ရှားခြင်းမှာ ထိတ်လန့်ကြောက်ရွံ့၍မဟုတ်။ တောလိုက်အမဲပစ်ခြင်းဝါသနာပါသူတို့ဘာဝ မိမိလိုက်နေသော သားကောင်ကို မိလုနီးအချိန်တွင် စိတ်တက်ကြွလာခြင်းမျိုးဖြစ်ကြောင်း ဖွန်ဂါဘီရာက အကဲခတ်မိလေသည်။

ဗိုလ်ချုပ် ဖွန်ဂါဘီရာကိုယ်တိုင်ကမူ ဘူခါရင်ကဲ့သို့ စိတ်လှုပ်ရှားမျိုးမဖြစ်ချေ။ သူသည် သွေးအေးအေးဖြင့် လုပ်ကိုင်လှုပ်ရှားတတ်သူဖြစ်သောကြောင့် ယင်းစိတ်ဓာတ်ကပင်လျှင် ကြောက်စိတ်ကိုဖုံးလွှမ်းထားနိုင်စွမ်းရှိအောင် အလိုအလျောက် ဖြစ်စေလေသည်။

ယခု သူသည် အာဆီဗိုင်ခေါ်တိုင်းရင်းသား ဓားလက်နက်တစ်ခုတည်းဖြင့် ကျွဲရိုင်းကြီးအားတိုက်ခိုက်သတ်ဖြတ်ရန်ဆုံးဖြတ်ခဲ့ခြင်းမှာ ရုရှလူမျိုး ပိုလ်မှူးကြီးဘူခါရင်အနေဖြင့် သူ့အပေါ်အထင်ကြီးလာစေရန်ဖြစ်လေသည်။ ယင်းလက်နက်အသုံးပြု၍ တိုက်ခိုက်နည်းကို ဖွန်ဂါဘီရာသည် လေ့ကျင့်ထားခဲ့သူဖြစ်လေသည်။

ထိုအလျောက်ပင် ကျွဲရိုင်းကြီးနှင့်တွေ့လျှင် ထိရောက်စွာ တိုက်ခိုက်နိုင်ရန် အသင့်ပြင်ဆင်ထားပေသည်။ စိတ်ကိုစူးစိုက်၍ ရန်သူအားအပြတ်ချေမှုန်းရန် ပြင်ဆင်သည့်စစ်မြေပြင်မှစစ်သည်တစ်ဦးကဲ့သို့ အားမာန်တင်းလိုက်သောအခါ သူ၏ခန္ဓာကိုယ်တစ်ခုလုံး ဖျတ်လတ်တက်ကြွလာလေသည်။ သန်မာသော ကြွက်သားများသည် လျှပ်စစ်ဓာတ်အားသွင်းလိုက်သလို အင်အားပြည့်တင်းလာသလို ဖြစ်လာလေသည်။

ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် လမ်းလျှောက်သွားရင်း အမဲရှာရင်း ဝဲယာနှစ်ဖက်နှစ်ချက်ကို အထူးဂရုစိုက်၍ ကြည့်သွားလေသည်။ ယခု မိမိတို့ ခြေရာခံလိုက်နေသော ကျွဲရိုင်းသတ္တဝါသည် အာဖရိကတောတွင်းတိရစ္ဆာန်များအနက် ကျားသစ်ကဲ့သို့ပင် အလွန်ဉာဏ်များလှသဖြင့် အန္တရာယ်ရှိနိုင်ကြောင်း ကောင်းစွာသိ၍ အထူးသတိထားနေခြင်းဖြစ်သည်။ ခြသေ့်ဆိုလျှင် တိုက်ခိုက်ကာနီးတွင် မာန်ဖီဟိန်းဟောက်တတ်သည်။ ဆင်ရိုင်းက သေနတ်ကျည်ဆန်ထိမှန်လျှင် ကြီးမားသောခန္ဓာကိုယ်ကြီးကို ဖြည်း

ဖြည်းချင်း ရန်သူဘက်သို့ လှည့်လာတတ်သည်။ သို့သော် ကျွဲရိုင်းသတ္တဝါကမူ လုံးဝ အသံမပြုဘဲ ရုတ်တရက်ပြေးဝင်ပြီး ခတ်တတ်လေသည်။ ကျွဲရိုင်း ပြေးဝင်လာပြီဆိုလျှင် သူ့အား လမ်းခုလတ်တွင် သေအောင်ပစ်နိုင်မှသာ ကျွဲချိုဖျားတွင်ပါသွားပြီးမရှုမလှသေရခြင်းမှ လွတ်ကင်းနိုင်မည် ဖြစ်ပေသည်။ အပြာရောင်ယင်ကောင်ကြီးတစ်ကောင်သည် ဗိုလ်ချုပ်ဖွန်ဂါဘီရာ၏မျက်နှာတွင်လာနားရာမှ နှာခေါင်းပေါက်တွင်းသို့ဝင်သွားလေသည်။ ဖွန်ဂါဘီရာသည် ကျွဲရိုင်းကြီးပုန်းအောင်းနေမည် ထင်ရသော ဝဲယာနှစ်ဖက်မှချုံပုတ်များကိုသာ အာရုံစူးစိုက်ကြည့်နေသဖြင့် မျက်နှာပေါ်လာနားသော ယင်ကောင်ကိုပင် ခြောက်မောင်းခြင်းမပြုမိချေ။ ရှုရှဗိုလ်မှူးကြီး ဘူခါရင်သည် ကျွဲရိုင်းကြီး၏ ခွာရာများကိုသာ ဂရုစိုက်ကြည့်ရင်း လျှောက်လာလေသည်။

တစ်နေရာတွင် ကျွဲကြီးသည် ခေတ္တရပ်နားခဲ့သည့် လက္ခဏာများကိုလည်း သတိပြုမိလေသည်။ ဤနေရာတွင် ကျွဲရိုင်းကြီးသည်ရပ်၍ နောက်မှလိုက်လာသော ရန်သူ(လူ)၏အသံကို နားစွင့်ထောင်ခြင်းဖြစ်ဟန်တူသည်။ ထိုအချိန်၌ ကျွဲရိုင်းကြီးသည် ပြင်းစွာဒေါသထွက်နေပြီး ရန်သူအား အသေခတ်ရန် အသင့်ဖြစ်နေသည်ဟု ထင်ရပေသည်။

ထို့နောက် ရှေ့သို့ဆက်သွားဟန်တူသည်။ စောစောက ဘူခါရင်ပစ်လိုက်သော ကျည်ဆန်ထိမှန်ထားသည့် သူ၏ဝမ်းဗိုက်အတွင်း၌ ပြင်းစွာနာကျင်ခြင်း ဝေဒနာခံစားနေရမည်မှာ ယုံမှားဘွယ်မရှိချေ။ ဗိုလ်မှူးကြီးဘူခါရင်သည် ဗိုလ်ချုပ်ဖွန်ဂါဘီရာ၏ မျက်နှာကို လှမ်းကြည့်လိုက်သည်။ တစ်ယောက်နှင့်တစ်ယောက် လုံးဝစကားမပြောဘဲ နားလည်သဘောပေါက်ကြဟန်ဖြင့် နှစ်ယောက်စလုံး ရှေ့သို့ဆက်လျှောက်သွားကြသည်။

စင်စစ်အားဖြင့် ကျွဲရိုင်းကြီးသည် သူ၏ ဘိုးဘေးဘီဘင် ကျွဲသတ္တဝါများ၏ အစဉ်အလာဓလေ့အတိုင်းပြုမူလှုပ်ရှားနေခြင်းဖြစ်သည်။ ဝမ်းဗိုက်သို့ ကျည်ဆန်ထိမှန်ခံရသည့်အချိန်မှစ၍ တအားပြေးလွှားခဲ့ခြင်း၊ ရံဖန်ရံခါခေတ္တရပ်၍ နောက်မှရန်သူလိုက်လာနေသလောဟု လေ့လာခြင်း၊ ရန်သူအားတုံ့ပြန်ကာ ချုံခိုတိုက်ခိုက်ရန်အတွက် နေရာကောင်းရှာဖွေခြင်းစသည်တို့မှာ ဒဏ်ရာရ၍ အန္တရာယ်နီးကပ်လာသည့်အခါ ကျွဲသတ္တဝါများ သဘာဝအရ ပြုလုပ်နေကျ လှုပ်ရှားမှုများပင် ဖြစ်လေသည်။

ကျွဲရိုင်းကြီးသည် ချုံပုတ်တွေကြားထဲ သွားနေရာမှ ခြေလှမ်းဆယ်လှမ်းခန့်ကျယ်သော မြေကွက်လပ်ငယ်တစ်ခုသို့ဖြတ်သွားပြီး တစ်ဘက်စွန်းရှိ ချုံနွယ်ပိတ်ပေါင်းကို ဖြတ်ထွက်လိုက်သည်။ သူဖြတ်တိုးသွားသည့် ချုံများတွင်နီရဲသောသွေးများ စွန်းထင်ကျန်ရစ်လေသည်။ ကျွဲကြီးသည် နောက်ထပ်ခြေလှမ်းငါးဆယ်ခန့်မျှ ဆက်လျှောက်သွားပြီးနောက် ရုတ်တရက်ပြန်လှည့်ကာ စောစောကဖြတ်ခဲ့

သည့် မြေကွက်လပ်ငယ်ဆီသို့ ပြန်လျှောက်လာလေသည်။ ယခုတစ်ကြိမ်တွင် ကျွဲရိုင်းကြီးသည် မုဆိုးက သားကောင်ရှိရာသို့ ချွတ်နင်းပြီး ချဉ်းကပ်သလို လုံးဝခြေသံမကြားအောင် ဖြည်းဖြည်းချင်း လျှောက်လာလေသည်။
မြေကွက်လပ်သို့ပြန်ရောက်သောအခါ ကျွဲကြီးသည် အနီးရှိချုံပုတ်များကြားထဲသို့ ဝင်နေလိုက်သည်။ သူ၏ကိုယ်မှဒဏ်ရာတွင်စွဲအုံနေသောယင်ကောင်များကို အမြီးဖြင့်ရိုက်နှက်မောင်းနှင်ခြင်းပင်မပြုလုပ်ချေ။ တစ်နည်းအားဖြင့်လှုပ်ရှားမှုလုံးဝမရှိအောင်အသာငြိမ်နေလိုက်ခြင်းဖြစ်သည်။ ဤသို့လျှင်ကျွဲရိုင်းကြီးသည် သူ့နောက်မှလိုက်လာသော ရန်သူ(လူ)များအား ချုံခို၍စောင့်နေပေသည်။

ရှုရှုလူမျိုး ဘူခါရင်သည် မြေကွက်လပ်ငယ်သို့ ရောက်လာသောအခါ ကျွဲကြီး၏ သွေးစသွေးနများကို မြင်မိလေသည်။ ဗိုလ်ချုပ်ဖွန်ဂါဘီရာသည်လည်း မကြာမီရောက်လာသောအခါ ကွက်လပ်ဘေး ပတ်ဝန်းကျင်ရှိ ချုံနွယ်များကို သေချာစွာလှည့်ပတ်ကြည့်လေသည်။ ယင်းသို့ဂရုတစိုက်ကြည့်ရင်း ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် ရုတ်တရက်မှင်တက်မိသလို အံ့အားသင့်ရာမှ လုံးဝမလှုပ်ရှားဘဲ ရပ်နေလိုက်မိသည်။ ချုံကွယ်အတွင်း အသာငြိမ်ပြီးချောင်းနေသူ ကျွဲကြီး၏မျက်လုံးကို မြင်လိုက်ရသော ကြောင့်ပင်တည်း။
ဖွန်ဂါဘီရာသည် မလှမ်းမကမ်းရှိ ရှုရှုဗိုလ်မှူးကြီးအား အသာလက်ဖျောက်တီး၍ အချက်ပေးလိုက်ရာ ဘူခါရင်လည်း အလားတူ မလှုပ်မယှက် ငြိမ်နေလိုက်သည်။ ကျွဲရိုင်းကြီးသည် အံ့သြဖွယ်ကောင်းလောက်အောင်လျင်မြန်လှပေသည်။ ရန်သူအား အပြတ်ချေမှုန်းရန်ပြေးလာပုံမှာ ဟာရီကိန်း မုန်တိုင်းကြီး တရကြမ်း တိုက်ခတ်လာသကဲ့သို့ ထင်ရပေသည်။

ကွက်လပ်အလယ်သို့ရောက်လျှင် ကျွဲကြီးသည် ရုတ်တရက်ရပ်လိုက်ပြီး ဘေးတိုက်ရွေ့လျားသွားလေသည်။ ဤကား ကျွဲရိုင်းသတ္တဝါတို့၏ တိုက်ခိုက်နည်း ပရိယာယ်တစ်ခုပင်ဖြစ်သည်။ မုဆိုးအနေဖြင့် ကျွဲကြီးရန်မှုတော့မည်မဟုတ်ဟု ထင်အောင်ပြုလုပ်သည့် လှုပ်ရှားမှုဖြစ်လေသည်။

မုဆိုးက သတိမထားတော့ဘဲ ခပ်ပေါ့ပေါ့နေလိုက်မိသည်ဆိုလျှင် ကျွဲကလျှပ်တစ်ပြက် လျင်မြန်စွာ ပြန်လှည့်ကာ အသေခတ်သတ်တတ်လေသည်။ ယခု ကျွဲရိုင်းကြီးသည်လည်း လူကိုမြင်ပါလျက် မခတ်တော့ဘဲ ရှောင်ထွက်သွားတော့မည့်ဟန်မျိုး လုပ်လိုက်ခြင်းဖြစ်သည်။

သို့သော် စက္ကန့်ပိုင်းအတွင် ရုတ်တရက်ပြန်လှည့်ကာ လူနှစ်ယောက်ရှိရာသို့အရှိန်ပြင်းစွာဖြင့် ပြေးဝင်လာလေသည်။ ဒီတစ်ခါတော့သူ၏ ဦးချိုဖျားတွင် လူအသက်ပါသွားအောင် တရကြမ်း တိုက်ခိုက်ရန်

ပြေးဝင်လာခြင်းဖြစ်သည်။ ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် ကျွဲကြီး ပြေးဝင်လာရာ လမ်းကြောင်းတည့်တည့်တွင် ရပ်၍ရင်ဆိုင်ရန် ထွက်လိုက်သည်။ သူက ယင်းသို့ပြေးထွက်လိုက်ချိန်တွင် ရှုရှုဗိုလ်မှူးကြီးက သူ၏ ရိုင်ဖယ်သေနတ်ဖြင့် ကျွဲကြီးအားပစ်ခတ်ရန်ချိန်နေပြီဖြစ်ရာ ဖွန်ဂါဘီရာကပစ်မှတ်၏ ရှေ့မှဝင်ကာဆီးလိုက်သလို ဖြစ်သွားသောကြောင့် ဘူခါရင်သည်မပစ်နိုင်တော့ဘဲ ရုတ်တရက် သေနတ်ပြောင်းကို အပေါ်သို့ထောင်ထား လိုက်ရလေသည်။

ဗိုလ်ချုပ်ဖွနဂါဘီရာသည် မလှုပ်ရှားဘဲရပ်နေရာမှ ကျွဲကြီးအနီးသို့ ရောက်လာတော့မှ လျင်မြန်ဖျတ်လတ်စွာဘေးသို့ အသာတိမ်းရှောင်လိုက်သည်။ ကျွဲရိုင်းကြီး၏ဦးချိုကြီးအဖျားသည် ဖွန်ဂါဘီရာ ခန္ဓာကိုယ်ဘေး(နံရိုးများ)နှင့် သီသီကလေးပွတ်ကာ လွတ်ထွက်သွားလေသည်။

တစ်ချိန်တည်းမှာပင် ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် အလွန်လျင်မြန်ဖျတ်လတ်စွာ သူ၏အာဆီဝိုင်ဓားရှည်ဖြင့် ကျွဲကြီးအားရှိသမျှ ခွန်အားဖျစ်ညှစ်ထုတ်လျက် ထိုးစိုက်ချလိုက်လေသည်။ ဓားသွားက အလွန်ထက်သလောက် ဖွန်ဂါဘီရာကလည်း တအားထိုးစိုက်လိုက်ခြင်းကြောင့် ဓားရှည်အသွားသည် လက်ကိုင်အရိုးထိအောင် ကျွဲရိုင်းကြီး၏ကိုယ်ထဲသို့ စိုက်ဝင်သွားလေသည်။ ကျွဲကြီးသည် အရှိန်ဖြင့်ဆက်ပြေးသွားသော်လည်း ကြာရှည်မပြေးနိုင်တော့ချေ။ သူ၏ရန်သူ ဖွန်ဂါဘီရာအားမြင်၍ ပြန်လည်ရန်မူရန် ကြိုးစားသော်လည်း သူ၏ကိုယ်ထဲမှ စိုက်ဝင်နေသောဓားရှည်၏ဒဏ်ရာကြောင့် ရန်မမူနိုင်တော့ဘဲ ဖြစ်နေလေသည်။

ဓားဒဏ်ရာဖြင့်ပင် ကျွဲကြီးမှချလဲကျသေဆုံးတော့မည်ဟု သေချာပေါက်သိနေပြီဖြစ်ရာ ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် စီးချင်းထိုးတိုက်ပွဲတွင် အနိုင်ရသော ရှေးခေတ်သူရဲကောင်းတစ်ဦးဟန်မျိုးဖြင့် ကျွဲကြီး၏ရှေ့တွင်ကိုယ်ကို မတ်မတ်ထားရပ်ကာ လက်နှစ်ဖက် ဆန့်တန်းမြှောက်လိုက်သည်။

"အို...အသင်ကျွဲသတ္တဝါ မကြာမီဘုရင်ဖြစ်လတ္တံ့သောဘုန်းကံရှင်တစ်ဦး၏သံမဏိသွားဖြင့် သင်သေပေလော့"ဤသို့လည်း ဖွန်ဂါဘီရာက ပါးစပ်မှ ရေရွတ်လိုက်သည်။

ကျွဲရိုင်းကြီးသည် ဆက်လက်ရပ်မနေနိုင်တော့ဘဲ မြေပြင်သို့ လဲကျသွားလေသည်။ ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် ကျွဲကြီး၏ကိုယ်အနီးတွင် ဒူးထောက်လျက် ဓားဒဏ်ရာမှပန်းထွက်နေသော သွေးများကို သူ၏လက်ခုပ်ဖြင့်ခံယူကာ သောက်လိုက်သည်။

"အို...အသင်ကျွဲကြီး သင်အသက်သေကာနီး သင်၏သွေးကို ငါသောက်လိုက်ပြီဖြစ်သည်။ ယခုအချိန်မှစ၍ သင်၏ခွန်အားဗလသည် ငါ့ခန္ဓာကိုယ်တွင်းသို့ ရောက်ရှိလာလေပြီ"

ဤသို့ ဗိုလ်ချုပ်ဖွန်ဂါဘီရာက ကြွေးကြော်လိုက်လိုက်တွင် ကျွဲရိုင်းကြီးလည်း အသက်ပျောက်သွား လေတော့သည်။

**အခန်း(၂၇)**

ဗိုလ်ချုပ်ဖွန်ဂါဘီရာသည်ရေချိုး၍ ယူနီဖောင်းဝတ်စုံဝတ်ထားပြီးဖြစ်သည်။ စစ်တပ်မှအရာရှိများ ညစာ စားပွဲများတွင် ဝတ်ဆင်ရသော မက်စ်ကစ်ခေါ် ညဝတ်စုံယူနီဖောင်း ဖြစ်လေသည်။ ရှပ်အင်္ကျီအဖြူ နှင့် အနက်ရောင်ဘိုးတိုင်ခေါ် လည်ပင်းမှ(နက်ကတိုင်အစားတပ်ရသည့်) ဖဲပြားတို့အပေါ်မှ ဝတ်ထား သော ကုတ်အင်္ကျီတွင် တတိယတပ်မဟာ၏ အမှတ်အသားတံဆိပ်လည်း တပ်ဆင်ထားလေသည်။

လက်ဝဲဘက် ရင်ဘတ်ပေါ်တွင်ကား စစ်မှုထမ်းကောင်း တံဆိပ်၊ သူရသတ္တိတံဆိပ်စသော ရောင်စုံ ဖဲပြားတံဆိပ်များ တပ်ဆင်ထားလေသည်။ သူတို့သည် တောတွင်း ယာယီစခန်းသို့ ပြန်ရောက်နေကြ ပြီဖြစ်သည်။ စခန်းရှိ အမှုထမ်း(အစေခံ)များက သစ်ပင်ကြီးတစ်ပင်အောက်တွင် စားပွဲကြီးတစ်လုံး ခင်းပေးထားသည်။ စားပွဲပေါ်တွင်ကား ရှီဗာအမျိုးအစား အကောင်းဆုံးဝီစကီ အရက်တစ်ပုလင်း၊ ဖန်ခွက်နှစ်ခွက်နှင့် ရေခဲများ အဆင်သင့်တင်ထားလေသည်။

ဗိုလ်မှူးကြီးဘူခါရင်သည် ဖွန်ဂါဘီရာနှင့် မျက်နှာချင်းဆိုင်တွင်ထိုင်နေလေသည်။ သူဝတ်ထားပုံက တော့ ရှပ်အင်္ကျီ ခပ်ပွပွတစ်ထည်နှင့် ရုရှနိုင်ငံမှ ကော့ဆက်လူမျိုးစုများဝတ်သည့် ဘောင်းဘီပွကို ဝတ်ဆင်ထားကာ ခြေထောက်တွင် သားရေနုနဖြင့်ပြုလုပ်ထားသော ဘွတ်ဖိနပ်တစ်ရန်စီးထား လေသည်။ သူသည် ဝီစကီအရက်ကို ဖန်ခွက်နှစ်ခွက်တွင်ထည့်၍ တစ်ခွက်ကို ဖွန်ဂါဘီရာအား လှမ်းပေးလိုက်သည်။

သူတို့သည်ဖန်ခွက်မြှောက်၍ ဆုတောင်းခြင်း(သို့မဟုတ်)တို့စ်လုပ်ခြင်းမလုပ်တော့ဘဲ ဝီစကီကိုသာ ဖြည်းဖြည်းချင်းသောက်ကြပေသည်။ ဝင်လုဆဲ နေမင်း၏အရောင်ကြောင့် အာဖရိကတိုက်၏ သဘာဝ တောတွင်းရှုခင်းမှာ အထူးပင်သာယာတင့်တယ်နေပေသည်။ ဗိုလ်ချုပ် ဖွန်ဂါဘီရာနှင့် ရုရှဗိုလ်မှူးကြီး ဘူခါရင်တို့နှစ်ဦးစလုံး ငြိမ်သက်စွာနှင့်ပင်ယမကာ သောက်နေကြလေသည်။

အတန်ကြာမှဘူခါရင်သည် သူ၏ဖန်ခွက်ကိုစားပွဲပေါ်ချလိုက်ပြီး ဗိုလ်ချုပ်ဖွန်ဂါဘီရာအား စကားစပြော လေသည်။ "ကိုင်း...မိတ်ဆွေကြီး၊ မိတ်ဆွေကြီး ဘာအလိုရှိပါသလဲ"

"ကျုပ်က ဒီမြေကြီးကို လိုချင်တာပဲ" ဖွန်ဂါဘီရာက သူ၏ဆန္ဒကို ထုတ်ဖော်ပြောလိုက်သည်။

"မြေကြီးအားလုံးကို လိုချင်တာလား"

"ဟုတ်တယ် မြေကြီးအားလုံးကို လိုချင်တယ်"

"ဇင်ဘာဘွေနိုင်ငံ တစ်ခုတည်း လိုချင်တာ မဟုတ်ဘူးလား"

"မဟုတ်ဘူး၊ ဇင်ဘာဘွေတစ်ခုတည်း မဟုတ်ဘူး"

"ဟုတ်ပြီ၊ ခင်ဗျားက ဒီမြေကြီး အားလုံးကို ရယူဖို့အတွက် ကျုပ်တို့က ကူညီရမယ်လား"

"ဟုတ်တယ်"

"ကောင်းပါပြီ၊ ကျုပ်တို့က ကူညီတဲ့အတွက် ဘာများ ပြန်ရမှာလဲ"

"ကျုပ်ရဲ့ မိတ်ဆွေဖြစ်လာမယ်၊ အဲဒါက တုံ့ပြန်ကျေးဇူးပြုတာပဲ"

ဖွန်ဂါဘီရာက ဤသို့ပြောသည်ကို ဘူခါရင်သည် သဘောကျပုံ မရချေ။

"ခင်ဗျားရဲ့မိတ်ဆွေဖြစ်လာမယ်ဆိုတာ သေသည်အထိလား၊ ဒါမှမဟုတ် ခင်ဗျားရဲ့ဆန္ဒပြည့်ဝပြီး နောက်ထပ် မိတ်ဆွေသစ်တစ်ယောက် ရှာတွေ့တဲ့အချိန်ထိလား"

ဘူခါရင်က သရော်သလိုဟန်မျိုးဖြင့် ပြောလိုက်ရာ ဗိုလ်ချုပ်ဖွန်ဂါဘီရာက ပြုံးလိုက်သည်။

အမှန်တော့ သူတို့နှစ်ဦးစလုံးသည် တွေးခေါ်ပုံချင်းတူသဖြင့် တစ်ယောက်ကိုတစ်ယောက် နားလည်သည့်အနေဖြင့် ဖွန်ဂါဘီရာက ပြုံးလိုက်ခြင်းဖြစ်သည်။

"ကျုပ်တို့ချင်းမိတ်ဆွေဖြစ်တဲ့ အထိမ်းအမှတ်အဖြစ် ခင်ဗျားက ဘာပေးမှာလဲ"

ဘူခါရင်က မေးလိုက်ပြန်သည်။

"မြို့ပြင်ဘက်ကကျုပ်ရဲ့အိမ်လိုမျိုးအိမ်တစ်လုံးရမယ်။ ပြီးတော့ ခရိုမီယံ၊ နီကယ်သတ္တု၊ ဘယ်ရီလီယံ သတ္တုတွေအပြင် ရွှေပါပေးပါမယ်"

ဒီတော့မှ ဘူခါရင်က ခေါင်းညိတ်လိုက်သည်။

"ဒါဆိုရင် ကျုပ်တို့အတွက် အသုံးဝင်မှာပဲ"

"တစ်ခုတော့ရှိတယ်နော်။ ကျုပ် ဇင်ဘာဘွေနိုင်ငံရဲ့ 'မိုနိုမာတာပါ'(သို့မဟုတ်) အာဏာရှင်ဖြစ်လာရင် ကျုပ်ရဲ့မျက်စိက ပတ်ဝန်းကျင်ကိုကြည့်ပြီး နောက်ထပ်လိုချင်တာတွေ ဖြစ်ပေါ်လာနိုင်တယ်။ ဒါဟာ သဘာဝပဲ မဟုတ်ပါလား"

"မှန်တယ်၊ သဘာဝပါပဲ"

ဗိုလ်မှူးကြီး ဘူခါရင်က ဤသို့ပြောလိုက်သော်လည်း သူ၏ စိတ်ထဲတွင်ကား ဤကက်ပတိန် လူမည်း (ဖွန်ဂါဘီရာ)အား သဘောမကျမိချေ။ ရှင်းရှင်းကတော့ ဘူခါရင်သည် အာဖရိကတိုက်မှ တိုင်းရင်းသား လူမည်းများ၏ အသားရောင်ကိုလည်းကောင်း၊ ခန္ဓာကိုယ်မှ အနံ့အသက်ကိုလည်းကောင်း၊ သူတို့၏ စိတ်ဓာတ်ကိုလည်းကောင်း၊ လုံးဝသဘောမကျသူဖြစ်သည်။ ယခု သူ့အနေ ဖြင့် လျှို့ဝှက်တာဝန်ကြောင့် ဆက်ဆံနေရခြင်းဖြစ်သည်။ ဗိုလ်ချုပ် ဖွန်ဂါဘီရာက စကားဆက်ပြောပြန်လေသည်။
"လိုချင်တာတွေကိုရှာရင်းကျုပ်ရဲ့မျက်စိက တောင်ဘက်စူးစူးကိုရောက်ကောင်းရောက်သွားလိမ့်မယ်"
ဤတွင် ဗိုလ်မှူးကြီးဘူခါရင်၏စိတ်ထဲမှ ဤလူကား အခြားအာဖရိကတိုက်သားများနှင့်မတူ အလွန်လောဘရမ္မက်ကြီးသူတစ်ယောက်ပါလားဟု အောက်မေ့မိလေသည်။ ဖွန်ဂါဘီရာကပင် ဆက်လက်၍

"အဲဒါက ဗိုလ်မှူးကြီးတို့လည်း မျက်စိကျတဲ့နေရာပါပဲ"ဟု ပြောလိုက်သည်။

"ဒါထက် ရဲဘော်ဗိုလ်ချုပ် ခင်ဗျားရဲ့မျက်စိက တောင်ဘက်စူးစူးက ဘာတွေများ မြင်မှာမို့လဲ"

"ကျွန်သပေါက်ဘဝရောက်နေတဲ့လူတွေလွတ်မြောက်ရေးအတွက်ကြိုးပမ်းဖို့ အချိန်ရောက်နေတာကို မြင်လိမ့်မယ်"
"နောက်တော့ ဘာတွေများ မြင်ဦးမှာလဲ"

"ကျုပ်မြင်မှာက ဝမ်ဝါတာအရပ်က ရွှေတွင်းတွေရယ်၊ ကင်ဘာလီမြို့ကစိန်တွင်းတွေ၊ ပလက်တီနမ်၊ ကြေးနီ သတ္တုတွင်းတွေရယ် မြင်လာလိမ့်မယ်။ အဲဒီဒေသဟာ ကမ္ဘာပေါ်မှာ အကြွယ်ဝဆုံး ဘဏ္ဍာတိုက်ကြီး တစ်ခုဖြစ်တယ်"

"ဒါတော့ မှန်ပါတယ်"

ဗိုလ်မှူးကြီးဘူခါရင်က ဝန်ခံလိုက်ရင်း ဗိုလ်ချုပ်ဖွန်ဂါဘီရာသည် အလွန်အကင်းပါးလိမ္မာသူ၊ ဉာဏ်ထက်မြက်သူတစ်ယောက်ဖြစ်သည်ဟု အကဲဖြတ်လိုက်မိသည်။ ဗိုလ်ချုပ် ဖွန်ဂါဘီရာသည် စကားမဆုံးသေးဟန်ဖြင့်-

ဆယ်လီ မင်းက အမျိုးသမီးတွေနဲ့စားရလိမ့်မယ်။ ဒါကသူတို့လူမျိုးရဲ့ဓလေ့ဖြစ်တယ်။ မင်းက သူတို့ အမျိုးသမီး တွေနဲ့ မစားရင် အဘိုးကြီးခမျာစိတ်မကောင်းဖြစ်လိမ့်မယ်"

ခရိတ် က အင်္ဂလိပ်လိုရှင်းပြလိုက်ရာ ဆယ်လီသဘောကျဟန်မတူချေ။

ဒီအဘိုးကြီးကလည်းရှင် အပြင်ပန်းကအလွန်ရည်မွန်ပုံရပေမယ့် တကယ်ကျတော့သူဟာလည်း တခြား တိုင်းရင်းသား တွေလို အမျိုးသမီးတွေ ကို နှိမ်ချင်တဲ့စိတ်ရှိတာပဲကိုး"

ဆယ်လီကအင်္ဂလိပ်လိုပြန်ပြောလိုက်သော်လည်း တိုင်းရင်းသူများနှင့်အတူ အစား မစားနိုင်ကြောင်း အတင်း အကျပ် မပြော ပါချေ။

ယောကျ်ားသုံးယောက်တို့သည် ဘီယာအိုးကိုတစ်ယောက်တစ်လှည့်စီလက်ဆင့်ကမ်း၍ သောက်ကြပြီး နောက် စားစရာ များကိုလည်းအလယ်တွင်ချထားသော ဇလုံကြီးတစ်ခုအတွင်းမှ အတူတူနှိုက်စား ကြလေသည်။ အဘိုးကြီးပူဆာမန်ဇီက ပလုပ်ပလောင်းစားနေရင်းကရံဖန်ရံခါ စကားပြောလေသည်။

ကျွန်ုပ်နှင့်သင်တို့ ပထမဆုံးအကြိမ်တွေ့ဆုံခြင်းကို ဝိညာဉ်လောကမှပုဂ္ဂိုလ်တွေကဟန့်တားလဲ့လေသည်။ ထိုညက ကျွန်ုပ်တို့သည်သင်တို့အလာကို စောင့်ဆိုင်းနေခဲ့ပါသောလည်းသင်တို့ရောက်မလာကြပါ။ ရှူနာစစ်သား များကသင်တို့အား ဖမ်းဆီးသွားခဲ့ကြသည်။ သို့သောယခုတော့မူ ပုဂ္ဂိုလ်တွေ စိတ်သဘော ထား ပြောင်းသွားကြပြီဖြစ်၍ သင်တို့အားရှူနာလူမျိုး လက်တွင်းမှ လွတ်မြောက်စေပြီး ကျွန်ုပ်တို့ထံ သို့ ရောက်ရှိ လာအောင်ကူညီဖန်တီးပေးခဲ့ကြပါ၏။ ရှေ့လျှောက်ကျွန်ုပ်တို့လူမျိုးများ နှင့် ပတ်သတ် ၍ အရေးကြီးသောကိစ္စများကို သင်တို့နှင့်ဆွေးနွေးစရာ ရှိနေပါ၏"

တွန်ဂါတာကလည်း သူ၏အာဘော်ကိုပြောလေသည်။

အသင် ပူဆာမန်ဇီကျွန်ုပ်ရှူနာလူမျိုးတို့လက်မှ လွတ်မြောက်အောင်နာမ်လောကမှ ပုဂ္ဂိုလ်များက ကူညီ မစခဲ့သည့်ဟု သင်ဆိုပါ၏။ သို့ဖြစ်ပါမူ ဤမျက်နာဖြူ(ခရိတ်အားညွှန်ပြလျက်) လူမျိုးသည် ထိုပုဂ္ဂိုလ်တို့၏ ကိုယ်စားလှယ် ဖြစ်ရပေမည်။ သူနှင့်တကွသူ၏အမျိုးတိုက် အသက်စွန့်၍ ကျွန်ုပ် လွတ်မြောက်အောင် ကူညီ ကယ်ဆယ် ခဲ့ကြ၏"

သို့တစေလည်း ဤသူသည်မျက်နာဖြူလူမျိုး ဖြစ်နေပါ၏"

အဘိုးကြီးက ခရိတ်နှင့်တကွမျက်နှာဖြူလူမျိုး
အားလုံးတို့အားမုန်းတီးစက်ဆုပ်ဟန်ဖြင့်ပြောလိုက်ခြင်း ဖြစ်လေ သည်။

တွန်ဂါတာက ခရိတ်ဘက်မှရှေ့နေလိုက်သလိုပြောပြန်သည်။
အို ... အသင်ပူဆာမန်ဇီ သူ၏မိသားစုသည် ဤမြေပြင်ပေါ်တွင်နေထိုင်ခဲ့သည်မှာ နှစ်ပေါင်း တစ်ရာခန့် ပင်ရှိပြီ ဖြစ်၏။ သူသည် ကျွန်ုပ်နှင့်ညီအစ်ကိုလည်းတော်စပ်၏"
သခင့်အနေဖြင့် ဤမျက်နှာဖြူလူမျိုးအားစိတ်ချရပါမည်ဟု အာမခံပါသလော၊ တာဝန်ယူပါသလော"
အဘိုးကြီး က ခရိတ်အားသံသယရှိသလို မေးပြန်ရာ တွန်ဂါတာကလည်း -
ကျွန်ုပ်တာဝန်ယူပါ၏။ ယခုဤနေရာတွင် စုဝေးရောက်ရှိနေသူအားလုံးသည် ယုံကြည် စိတ်ချရသော မိတ်ဆွေ များချည်း ဖြစ်ပါ၏။ ဟုပြောလိုက်လေသည်။

သည်တော့မှ အဘိုးကြီးသည်သက်ပြင်းချလျက်-
အရှင်သခင်၏သဘောအတိုင်းရှိပါစေလော့" ဟုပြောပြီးရုတ်တရက် တစ်စုံတစ်ခုကို သတိရဟန်ဖြင့်-
အို... အရှင်သခင် အရှင်သည်ဘုရင်မင်းမြတ်၏ သင်္ချိုင်းဂူကို တာဝန်ထူစောင့်ရှောက်နေရသူ မဟုတ် ပါလော့" ဟု မေးလိုက်သည်။
ဤတွင် တွန်ဂါတာ သည် အံ့အားသင့်သွားသည်။

အို .... အသင် အဘိုးအို၊ ဤအကြောင်းကို သင်သည် မည်မျှသိပါသနည်း"
ကျွန်ုပ် သိသလောက်ကိုပြောရလျှင် ကူမာလိုအဆက်အနွယ်တို့၏ သားများအရွယ်ရောက်လာသောအခါ သူတို့အား ဘုရင်၏ သင်္ချိုင်းဂူရှိရာသို့ ခေါ်ယူပြသဖြင့် သင်္ချိုင်းဂူကို စောင့်ရှောက်ရန် ကျမ်းသစ္စာ ကျိန်ဆို စေရကြောင်း ကျုပ်သိပါ၏။
အဘိုးကြီးကပြောလိုက်လျှင် တွန်ဂါတာကခေါင်းညိတ်လိုက်သည်။

ဤအတိုင်း ဖြစ်နိုင်ကောင်းပါပေ၏"
ဤအကြောင်းနှင့်ပတ်သတ်သော အတိတ်တဘောင်ကိုအရှင်သိပါ၏လော"

အဘိုးကြီးကမေးမြန်းရာ တွန်ဂါတာကလည်း ခေါင်းညိတ်လိုက်ပြန်သည်။

မာတာဘယ်လီလူမျိုးတို့ အကျပ်အတည်းနှင့်တွေ့၍ လိုအပ်သည်ရှိသော်ဘုရင်ကြီး၏ ဝိညာဉ်က လာရောက် ၍ ကူညီ စောင့်ရှောက်လိမ့်မည်။ တဘောင်က ဤသို့ဆိုသည် မဟုတ်ပါလော"

လိုဘင်ဂူလာ ၏ ဝိညာဉ်သည်မီးတောက်မီးလျှံကဲ့သို့သော အသွင်ဖြင့်လာရောက်ကူညီမစလိမ့်မည်။

အဘိုးကြီးကအတိတ်တဘောင်ကို အတိအကျပြောလိုက်သည်။

မှန်ပါ၏။ လိုဘင်ဂူလာ၏မီးလျှံကလာရောက်ကူညီမစလိမ့်မည်ဟု အဆိုရှိခဲ့ကြောင်းကျွန်ုပ် သိပါ၏။

ထိုမျှသာအဟုတ်သေး၊ ရှေးအစဉ်အဆက်ကရှိခဲ့သော အတိတ်တဘောင်နှင့်ပတ်သတ်၍ များစွာ ရှိသေး၏။ အရှင် သိပါ၏လော။

အို .... အဘိုအို ကျွန်ုပ်အားပြောပါလေလော့"

ကောင်းလှပါပြီအရှင်၊ ကျွန်ုပ်ပြောပါအံ့။ အတိတ်တဘောင်က ဤသို့ဆိုပါ၏။ ကျားသစ်ငှက် သည် ရှေးဦးစွာ ကျမ်းသစ္စာ ကျိန်ဆိုချက်ကိုဖောက်ဖျက်သည်။ ထို့နောက်၄င်းအား တုပ်နှောင် ထားသော နှောင်ကြိုး တို့ကိုလည်း ဖြတ်ထွက်လိမ့်မည်။ ထိုအခါကျားသစ်ငှက်သည် လင်းယုန် ကဲ့သို့ ပျံသန်း လိမ့်မည်။ ရေထဲမှငါးကဲ့သို့လည်းကျင်လည်စွာ ရေကူမည်။ ယင်းသို့ ဖြစ်ပျက်ပြီးသောအခါ လိုဘင်ဂူလာ၏ မီးလျှံသည် အမှောင်ထုအတွင်းမှ လွတ်မြောက်ကာသူ၏ပြည်သူတို့အား ကယ်တင် လိမ့်မည်။ ဤသို့လျှင် တဘောင်က ဆိုပါ၏"

အားလုံးတိတ်ဆိတ်ငြိမ်သက်စွာ နားထောင်ကြစဉ် အဘိုးကြီးကပင်ဆက်လက်၍-

ကျားသစ်၏သားရေသည်ကူမာလိုမင်းဆက်၏ အမှတ်အသားပင်ဖြစ်၏။ ထို့ကြောင့် အတိတ်တဘောင် မှ ကျားသစ်ငှက် ဟူသည်ယင်းမင်းဆက်၏ အနွယ်တော်တစ်ဦး ဖြစ်ရပေမည်" ဟုပြောလိုက်သည်။

တွန်ဂါတာကမူ ဆိတ်ဆိတ်နေလိုက်သည်။

"အို....အရှင်သခင် သူသည် ကျမ်းသစ္စာ ကျိန်ဆိုချက်ကို ဖောက်ဖျက်ခဲ့ပြီဟု ကျွန်ုပ် မသိပါ။ သို့ရာတွင် သင်သည် ရှုံနာလူမျိုးတို့က သင့်အား တုပ်နှောင်ထားသည့် နှောင်ကြိုးများကိုကား

သင်သည် ဖြတ်တောက် ၍ ထွက်လာခဲ့ပြီ ဖြစ်ပါ၏။ "

အဘိုးကြီးက ဤသို့ပြောပြန်ရာ ခရိတ်က ခေါင်းညိတ်ရုံ ညိတ်လိုက်သည်။

"အရှင်သခင် သင်သည် ရှိနာလူမျိုးတို့၏ အနောင်အဖွဲ့မှ ထွက်ပြေးလွတ်မြောက်ခဲ့ရာတွင် လင်းယုန်ငှက် ကဲ့သို့ အင်ဒေကီ စက်ယန္တရားဖြင့် ပျံသန်းလွတ်မြောက်လာခဲ့သည် မဟုတ်ပါလော "

တွန်ဂါတာသည် အဘိုးကြီးအား ခေါင်းညိတ်ပြပြီးနောက် ခရိတ်ဘက်သို့ လှည့်၍ အင်္ဂလိပ်ဘာသာဖြင့် ခပ်တိုးတိုး ရှင်းပြလေသည်။

"ကျုပ်တို့ လူမျိုးတို့ရဲ့ အတိတ်တဘောင်တွေ ထူးခြားပုံတစ်ခုက တကယ်ဖြစ်ပျက်လာတာ မှန်သမျှကို တဘောင် နဲ့ ကိုက်ညီအောင် ကြံဖန် ဆွဲယူထောက်ပြလို့ရတယ်။ တစ်ခုတော့ ရှိတာပေါ့။ အတိတ်တဘောင် တွေကို သားစဉ် မြေးဆက် တစ်ဆင့်ပြီးတစ်ဆင့် ပြောကြရာမှာ နည်းနည်းပါးပါး အပြောင်းအလဲ ရှိလာ တတ်တယ် "

ဤသို့ပြောပြီးမှ တွန်ဂါတာသည် အဘိုးကြီးအား မာတာဘယ်လီဘာသာဖြင့်လှည့်ပြောပြန်သည်။

"အို....အသင် အဘိုးအို သင်ကား ဉာဏ်အမြော်အမြင်နှင့် ပြည့်စုံပါပေ၏။သို့ဖြစ်လင့်ကစား ရေထဲမှ ငါးကဲ့သို့ ကျင်လည်စွာ ရေကူးခြင်းအကြောင်းကိုလည်း သင် ကြိုသိထားစေချင်ပါ၏။ ကျွန်ုပ်အနေဖြင့် ရေနစ်ပြီး သေဆုံးရမည်ကို အလွန်ကြောက်ပါ၏။ ထို့ကြောင့် သင်သည်အခြားသော ငါးတစ်ကောင်ကို ရှာရ ပေမည် "

အဘိုးကြီး ပူဆာမန်ဇီသည် ဘာမျှမပြောဘဲ ဆိတ်ဆိတ်နေရာ တွန်ဂါတာကပင် ဆက်ပြောပြန်သည်။

"ကျွန်ုပ်အနေဖြင့် သင့်အားပြောပြစရာတစ်ခု ရှိသေး၏။ ကျွန်ုပ်သည် လိုဘင်ဂူလာ၏ သချိုင်းဂူအတွင်းသို့ ဝင်ရောက် ခဲ့ပြီးပါပြီ။ အတွင်း၌ ဘာမျှမရှိ၊ ဗလာနတ္ထိ ဖြစ်နေပါ၏။ လိုဘင်ဂူလာ၏ရုပ်ကလာပ်လည်း မရှိ တော့ပါ။ ထို့ကြောင့် ရှေးကရှိခဲ့သော အတိတ်တဘောင်သည် ရှေးပဝေဏီသီကပင် ပျက်ပြယ်ချေပြီဟု ဆိုရ မလို ဖြစ်နေပါ၏ "

တွန်ဂါတာ၏ စကားကို ကြားလျှင် အဘိုးကြီးသည် စိတ်မချမ်းသာ ဖြစ်သွားပုံမရချေ။ သို့သော် သူ၏ လည်ပင်း တွင် ဆွဲချိတ်ထားသော တိရစ္ဆာန်ဦးချိုမှ အဖုံးကို ဖွင့်လိုက်သည်။(တိရစ္ဆာန်ဦးချိုမှာ တိုင်းရင်းသား တို့ နာမှုန့် ထည့်ရာ၌ အသုံးပြုလေ့ရှိသောဦးချိုတစ်ခုပင် ဖြစ်သည်။)

## တက္ကသိုလ် နေဝင်း ဘာသာပြန် ဇင်ဘာဘွေ အခန်း (၃၇) အဆက်

"အို…အရှင် အကယ်၍ သင်သည် ဘုရင်၏ သင်္ချိုင်းဂူအတွင်းသို့ ဝင်ရောက်ခဲ့သည် မှန်ပါက သင့်အနေဖြင့် မပျက်မယွင်း အောင် ကာကွယ်စောင့်ရှောက်ပါမည်ဟုသော ကတိသစ္စာကို ဖောက်ဖျက်ရာ ရောက်သွား လေပြီ"

အဘိုးကြီးသည် စကားကို ခေတ္တဖြတ်ထားပြီး ဦးချိုအတွင်းမှ နာမှုန့်အနည်းငယ်ယူကာ နာဝတွင်တေ့၍ ရှူ လိုက်သည်။ အားရပါးရ ဟတ်ချိုး ဟတ်ချိုး ဟု ချေပြီးတော့မှ စကား ဆက်ပြောလေသည်။

"အို…အရှင် သင်သည် ကျမ်းသစ္စာကျိန်ဆိုချက်ကို ဖောက်ဖျက်ပါက သင်ကိုယ်တိုင်က ဖောက်ဖျက်ခြင်းကို တားမြစ်ခြင်း ဌာ မစွမ်းနိုင်သောကြောင့်ပင် ဖြစ်ပါ၏။ သင်၏ ဘိုးဘေးဘီဘင်များက သင့်အား ဤသို့ ပြုမိအောင် လှုံ့ဆော်တိုက်တွန်းခြင်းကြောင့်လည်းဖြစ်၍ အရှင့်တွင် အပြစ်မရှိပါချေ။ ယင်းကိစ္စကို အသာ ထား၍ ကျွန်ုပ်က သင်္ချိုင်းဂူထဲ ဘာမှမရှိတော့သည့် အကြောင်းကို ရှင်းပြပါအံ့"

အဘိုးကြီး သည် စကားကို ခေတ္တဖြတ်လိုက်ပြီးမှ ဆက်ပြောလေသည်။

"ကောင်းပါပြီ၊ ကျွန်ုပ် ပြောပါတော့အံ့။ သင်တို့အနေဖြင့် လွန်လေပြီးသောအခါက အသက်ထင်ရှား ရှိခဲ့သော တာကာတာကာ အမည်ရှိ လူတစ်ယောက်အကြောင်းကြားဖူးပါသလော"

ခရိတ်နှင့် တွန်ဂါတာတို့ နှစ်ဦးစလုံးက ခေါင်းညိတ်ပြသောအခါ အဘိုးကြီးသည်ခရိတ်အား ညွှန်ပြလျက်-

"တာကာတာကာသည် အခြားမဟုတ်၊ ဤသူ၏ ဘိုးဘေး၏ ဖခင် (အဘိုး)ပင် ဖြစ်ချေ၏။ သူသည် ဘုရင် လိုဘင်ဂူလာ လက်ထက်က အလွန်နာမည်နာမည်ကျော်ကြားသော မျက်နာဖြူလူမျိုး စစ်သည် တစ်ဦး ပင်ဖြစ်၏။ သူသည် လိုဘင်ဂူလာ၏ တပ်များအားတိုက်ခိုက်ခဲ့သူလည်းဖြစ်၏။ တာကာ တာကာ ဟု အမည်တွင် ရခြင်းအကြောင်းကား သူ၏စက်သေနတမှ အဆက် မပြတ် ထွက်သည့် အသံသည် ကျွန်ုပ် တို့တိုင်းရင်းသားများ၏ နားတွင်တာကာတာကာဟုကြားကြသဖြင့် ယင်းနာမည်ဖြင့်ထိုလူ အား ခေါ်ဝေါ် ခဲ့ကြခြင်းဖြစ်၏။

ဤတွင်ခရိတ်က တွန်ဂါတာအားအင်္ဂလိပ်ဘာသာဖြင့်-

သူပြောတာကဆာဘာလင်တိုင်ဆိုတဲ့ပဂ္ဂိုလ်ဖြစ်ပါတယ်။အင်္ဂလိပ်လူမျိုးရိုဒ်ရဲ့ညာလက်ရုံးတစ်ဆူ ဖြစ်ခဲ့ပြီး ရိုဒီရှား နိုင်ငံ တည်ထောင်လိုက်ချိန်မှာ ပထမဆုံးဝန်ကြီးချုပ်ဖြစ်လာခဲ့တယ်" ဟုပြောပြီးမှ -

မာတာဘယ်လီဘာသာဖြင့် ဆက်လက်၍

တာကာ တာကာအား မိုတိုမိုတောင်ခြေတွင် မြေမြုပ်သင်္ဂြိုလ်ခဲ့ကြကြောင်းသိပါ၏။ သင်္ဂြိုလ်သည့် နေရာ ကလည်း ရို့ဒ်၏ သင်္ချိုင်းဂူနှင့် ကပ်လျက်ပင်ဖြစ်ပါ၏" ဟုပြောလိုက်သည်။

သည်တော့မှအဘိုးကြီးပူဆာမန်ဇီသည်သဘောကျသွားဟန်ဖြင့်ခေါင်းညိတ်လိုက်သည်။

ဟုတ်ပါ၏၊ ကျွန်ုပ်ဆိုလိုသည်မှာထိုလူပင်ဖြစ်ပါ၏။

တာကာတာကာသည်စစ်သည်တစ်ယောက်သာ မဟုတ်သူခိုးကြီး တစ်ဦးလည်းဖြစ်၏။

သူသည်ဇင်ဘာဘွေရှေးဟောင်းမြို့တော်ကြီးမှ အဖိုးတန် ပစ္စည်းများ ကိုလည်း ခိုးယူခဲ့၏။

ဤတောင်ပေါ် ဒေသသို့လာရောက်၍ လိုဘင်ဂူလာ၏သင်္ချိုင်းဂူကိုဖောက်ထွင်းပြီး

အဖိုးတန်ကျောက်မျက်ရတနာများကို ခိုးယူသူလည်းဖြစ်ပေ သည်တကား"

ခရိတ်နှင့် တွန်ဂါတာတို့သည် အထူးစိတ်ဝင်စားလာကာ အဘိုးကြီး၏စကားကို ပို၍ အာရုံစိုက် နားထောင် နေကြသည်။

အဘိုးကြီးကလည်းစကားဆက်လေသည်။

ကျွန်ုပ်သည် တာကာတာကာက ကိုယ်တိုင်ရေးသားခဲ့သောစာအုပ်ကို ဖတ်ရှုခဲ့ပြီးဖြစ်၏။ (မှတ်ချက်။ ။ တာကာ တာကာအမည်ခံဗြိတိသျှလူမျိုး ဆာဘာလင်တိုင်သည် သူ၏လက်ရေးဖြင့် ဒိုင်ယာရီ များ ရေးသားခဲ့ရာ ယင်းမှတ်တမ်းစာအုပ်များကို မိသားစု၏ အမွေအနှစ် အဖြစ် သားစဉ် မြေးဆက်ထိန်း

သိမ်းခဲ့ကြပြီး နောက်ဆုံးခရိတ်၏လက်ဝယ်ရောက်ရှိခဲ့သည်။ ခရိတ်အားဖွန်ဂါဘီရာက မောင်နှင် ထုတ်လိုက် သောအခါ မှတ်တမ်းစာအုပ်များသည် ကင်းလင်းမွေးမြူရေးခြံကြီးတွင် ကျန်ရစ်ခဲ့သည်။

ခရိတ်ကလည်း သူသိသမျှပြောလေသည်။

ကျွန်ုပ်သည်လည်း တာကာတာကာကိုယ်တိုင်ရေးသားခဲ့သော စာအုပ်ကိုဖတ်ကြည့်ရာ ဘုရင်

လိုဘင်ဂူလာ ၏သချိုင်းဂူ သို့ရောက်ရှိခဲ့ပုံကို ဖော်ပြမထားကြောင်းတွေ့ရသည်။ ရှိပါစေတော့၊ အသင် ပြောသည့်မီးလျှံကဲ့သို့ အရောင်တောက်ပသော ကျောက်မျက်များဆိုသည်ဘာကို ဆိုလို ပါသနည်း"

အဘိုးကြီးသည်ခရိတ်အားဝေဖန်ပြစ်တင်သည့်ဟန်ဖြင့် လက်ဝါးကာပြလိုက်သည်။

သင်သည်ရှေ့လောကြီးလွန်းဘိ၏ တကား။ ဤလျှို့ဝှက်ချက်ကိုကူမာလို၏ သားတော်က ကျွန်ုပ်တို့အား ပြောပြပါ စေလော့"

အဘိုးကြီးသည်တွန်ဂါတာဘက်သို့လှည့်လိုက်သည်။

အို.... အရှင် တွန်ဂါတာ မီးလုံးကဲ့သို့သော ကျောက်များအကြောင်းကြားဖူးပါ၏လော"

တွန်ဂါတာ လည်း ခေါင်းညိတ်လိုက်သည်။

ကျွန်ုပ်အနေဖြင့်အသင့်အတင့်ကြားဖူးပါ၏။ တောင်စူးစူးအရပ်ရှိ မျက်နှာဖြူလူမျိုးတို့၏ စိန်တွင်းများမှ အဖိုးတန် စိန်ရတနာ အမြောက်အမြားကို လိုဘင်ဂူလာကရယူစုဆောင်ခဲ့သည်ဟုလည်း ကြားဖူးခဲ့ပါ၏။

ဤတွင် ခရိတ်သည်ကြားဖြတ်ဝင်ပြောမည်ပြုရာ တွန်ဂါတာကအင်္ဂလိပ်ဘာသာဖြင့်-

ကျုပ်နောက်မှ ရှင်းပြပါ့မယ်" ဟုပြော၍ ဟန့်တားလိုက်ပြီးအဘိုးကြီးဘက်သို့မြန်လှည့်လိုက်သည်။

အို .... အရှင်သခင် တွန်ဂါတာ၊ သင်ကြားခဲ့သည့်အတိုင်း မှန်ပေ၏။ ဘီယာအိုး ငါးအိုးနှင့် အပြည့် မီးလျှံ ကဲ့သို့သော ကျောက် သို့မဟုတ် စိန်များရှိခဲ့ပါ၏"

အဘိုးကြီးပူဆာမန်ဇီ သည် ခရိတ်အားပြစ်တင်ရှုတ်ချသော မျက်လုံးများဖြင့်လှည့်ကြည့်လိုက်သည်။

သင်သည် မိန်းမများကဲ့သို့ စကားများလှချေ၏။ ထို့ကြောင့်သင်သည်မိန်းမများရှိရာ မီးဖိုသို့ သွားသင့်သည်။

ခရိတ်ကမူဘာမှပြန်မပြောဘဲ ပြုံး၍သာနေလိုက်ရာအဘိုးကြီးကစကားဆက်ပြန်သည်။

ဘုရင်လိုဘင်ဂူလာကွယ်လွန်၍ သဂြိုလ်ပြီးသူ၏သင်္ချိုင်းဂူကိုညီတော်သူ ဂန်ဒန်ဆိုသူက အသေ ပိတ်ဆို့ လိုက်စဉ်က -

ဂန်ဒန်သည်ကျွန်ုပ်၏အဘိုး (ဘိုးအေ၏ဖခင်) မဟုတ်ပါလော" ဟုဝင်ထောက်လိုက်သည်။

မှန်၏၊ သင်၏အဘိုးတော်သူဖြစ်၏။ဂန်ဒန်သည်နောင်တော်ဘုရင်၏ ရတနာပစ္စည်းများကို သချိုင်းဂူ

အတွင်း၌ ထည့်ထား လိုက်ပြီးနောက် မာတာဘယ်လီလူမျိုးတို့အား ခေါင်းဆောင်၍ မျက်နှာဖြူလူမျိုးတို့ ၏ စိန်တွင်း များရှိရာ လိုဇီအရပ်သို့ပြန်သွားခဲ့၏ တာကာတာကာ ဟု ခေါ်သော မျက်နှာဖြူနှင့်လည်း အပေးအယူနားလည်မှုလုပ်ခဲ့၏။ ထိုအချိန်မှစ၍ မာတာဘယ်လီ လူမျိုး အများစု သည် မျက်နှာဖြူ တို့အား အလုပ်အကျွေးပြုသောကျေးကျွန်များဖြစ်သွားခဲ့၏။

သို့ရာတွင်မာတာဘယ်လီတိုင်းရင်းသား တစ်ယောက်ကမူ ဂန်ဒန်နောက်သို့လိုက်မသွားဘဲ ဤတောင်ပေါ် ဒေသတွင်ပင် နေရစ်၍ ဘုရင်၏သင်္ချိုင်းဂူကိုစောင့်ရှောက်ခဲ့ ပါ၏။ ထိုလူသည်ကားအယ်ဆူရှာအမည်ရှိ နာမည်ကျော် မျက်လှည့်ဆရာ (မှော်ဆရာ) တစ်ဦးဖြစ်၏။သူသည် ဘုရင်၏ သင်္ချိုင်းဂူအနီးတွင်ပင် ရွာတည်ကာ မိန်းမနစ်ယောက် ယူ၍ သားသမီးတွေထွန်းကားခဲ့၏။ အယ်ဆူရှာသည်ကားကျွန်ုပ်၏ အဘိုး ပင်ဖြစ်ချေ၏။ ”

”နာမ်လောကမှဝိညာဉ်တို့ မည်သို့ပြုမူခဲ့သည်ကို သဘောပေါက်ကြပါပြီလော။ လူသုံးဦးတို့သည် သမိုင်းကြောင်း
အရ သော်လည်းကောင်း၊ သွေးသားတော်စပ်ခြင်းအရသော်လည်းကောင်း တစ်ဦးနှင့်တစ်ဦး ဆက်နွယ်၍ နေဘိ၏။ ဤသည်ကား နာမ်လောကမှဝိညာဉ်တို့တို့၏ လုပ်ဆောင်ချက်ပင်ဖြစ်ချေသည်တကား ”

” ဆယ်လီပြောတဲ့အတိုင်း မှန်တယ်ဗျို့။ ဒီနေရာကကြီးသီးထဖို့ကောင်းတယ်၊ ရင်ဖိုစရာကောင်းတယ်”

ခရိုတ်က အင်္ဂလိပ်ဘာသာဖြင့် တွန့်ဂါတာအားတိုးတိုးပြောလိုက်ရာ အဘိုးကြီးက ခရိုတ်အား သဘောမကျ ဟန်ဖြင့် မျက်မှောင်ကြုတ်လိုက်သည်။ သူနားမလည်သော နိုင်ငံခြား ဘာသာဖြင့် ပြောရ ကောင်းလား ဟု မကျေမနပ်ဖြစ်ပုံရလေသည်။

”ကျွန်ုပ်ပြောသည့် တာကာတာကာဆိုသူသည်ကား အလွန်နာမည်ကြီးသောသူခိုးတစ်ဦးအမှန်ဖြစ်ချေ။ တောခွေး ကဲ့သို့ အနံ့ခံကောင်းပြီး လင်းတငှက်ကဲ့သို့လောဘကြီးသူလည်း ဖြစ်၏ ”

အဘိုးကြီး ပူဆာမန်ဇီက ဆက်ပြောပြန်လေသည်။

” တာကာတာကာသည် ဂန်ဒန်၏နောက်လိုက် မာတာဘယ်လီလူမျိုးအလုပ်သမားများ

ထံမှတစ်ဆင့် ဘီယာအိုး ငါးလုံး
အပြည့်ရှိသော စိန်ရတနာများအကြောင်းသိရှိသွားခဲ့၏။ ဘုရင်လိုဘင်ဂူလာအား သင်္ဂြိုဟ်စဉ်က ရှိခဲ့သော သူများကိုလည်း သိရှိ
သွားပြီး တာကာတာကာသည် ထိုလူများအားချဉ်းကပ်စည်းရုံးလေတော့၏။ ကျွဲနွား တိရစ္ဆာန်များ၊ ရွှေဒင်္ဂါးများ ပေး၍လည်း ဖြား ယောင်း၍ သင်္ချိုင်းဂူတည်ရှိရာနေရာအကြောင်း မေးမြန်းစုံစမ်းခဲ့၏။ နောက်ဆုံး တွင် သစ္စာဖောက်မာတာဘယ်လီလူမျိုးမခံထိုက် သူတစ်ယောက်ဖြစ်၏။ ကျွန်ုပ်အနေဖြင့် ထို လူယုတ်မာ ၏ အမည်ကိုဖော်ထုတ်မပြောချင်တော့။ ထိုလူကား အမျိုးသားသစ္စာဖောက် တစ်ယောက် အမှန် ပင် ဖြစ်ချေ၏။

ဤနေရာတွင် အဘိုးကြီးသည်သစ္စာဖောက် မာတာဘယ်လီအမျိုးသားအား ရွံ့ရှာဆက်ဆုပ်ဟန်ဖြင့် ထွီခနဲတံတွေးထွေး လိုက်ပြီးမှစကားဆက်ပြောလေသည်။

" ထိုခွေးသာသာသစ္စာဖောက်သတ္တဝါသည် တာကာတာကာအားဘုရင်၏ သင်္ချိုင်းဂူ ရှိရာသို့ လမ်းပြ ခေါ်ဆောင် သွားခဲ့၏။
သို့သော် ထိုသို့ခေါ်မသွားမီ မျက်နှာဖြူလူမျိုးအချင်းချင်း
ကြီးကျယ်စွာသောစစ်ပွဲကြီးဖြစ်လာသောကြောင့် တာကာတာကာသည်
မြောက်ဘက်သို့ခရီးထွက်၍ဂျာမန်လူမျိုး နာမည်ကြီးစစ်သူကြီးအား တိုက်ခိုက် သည်ဟု ဆို၏ "
ခရိတ်သည် နားထောင် နေရာမှ အဘိုးကြီးပြောပြချက်ကို သဘောပေါက်သဖြင့် တွန်ဂါတာအား အင်္ဂလိပ် ဘာသာဖြင့်
"သူပြောတာက (1914-18) ပထမကမ္ဘာစစ်အတွင်းက အရှေ့အာဖရိကစစ်မျက်နှာမှ နာမည်ကြီး ခဲ့တဲ့ ဂျာမန် ဗိုလ်ချုပ်ကြီး
ဗွန်ဗောဘယ်ဆိုသူကို ပြောတာပါ" ဟုပြောလိုက်သည်။

တွန်ဂျာတာလည်း နားလည်ဟန်ဖြင့်ခေါင်းညိတ်လိုက်သည်။

အဘိုးကြီး ဗူဆာမန်ဇီသည် စကားဆက်လေသည်။

" စစ်ပွဲကြီးပြီးသွားသောအခါ တာကာတာကာသည်ပြန်လာခဲ့ပြီး မာတာဘယ်လီလူမျိုး သစ္စာဖောက် အား ခေါ်၍ ဤတောင်ပေါ်ဒေသသို့ ထွက်လာခဲ့၏။ သူနှင့်အတူမျက်နှာဖြူလူမျိုး အဖြစ် လိုက်ပါလာပြီး ဘုရင်လိုဘင်ဂူလာ သင်္ချိုင်းဂူရှိရာ နေရာကို ရှာဖွေခဲ့ကြ၏။

သစ္စာဖောက်မာတာဘယ်လီလူမျိုးသည် သချိုင်းဂူ ရှိရာနေရာ ကို တိကျစွာမမှတ်မိသဖြင့် ရက်ပေါင်း နှစ်ဆယ့်ရှစ်ရက်တိုင်တိုင် ရှာဖွေခဲ့ကြရသည်ဟုလည်းဆို၏။ သချိုင်းဂူကလည်း အလွန်ပိရိစွာ လုပ်ထား သဖြင့် ရှာဖွေရသည်မှာ မလွယ်ကူချေ။ သို့ဖြစ်လင့်ကစား တောခွေးကဲ့သို့ အနံ့ခံ ကောင်းသူ တာကာတာကာ သည် နောက်ဆုံး၌ သချိုင်းဂူကို ရှာတွေ့သွားတော့၏။ သချိုင်းဂူကို ဖွင့်၍ ဝင်ကြည့်လိုက်သော အခါ နွားလှည်းများ၊ သေနတ်လက်နက်များကိုတွေ့သော်လည်း ဘီယာအိုး ငါးလုံးနှင့် စိန်ရတနာများ ကိုကား မတွေ့ရချေ။ တာကာတာကာအနေဖြင့် သဲကြီးမဲကြီးလိုက်ရှာခဲ့ရသော စိန်ရတနာ များ လုံးဝမရှိတော့ကြောင်း တွေ့ရသည်ဆို၏။ ”

ဤတွင် တွန်ဂါတာက ဝင်၍ -

” ဤအကြောင်းကို ကျွန်ုပ်ကိုယ်တိုင် တွေ့ရှိပြီးဖြစ်၍ သင့်အားပြောပြခဲ့ပြီး မဟုတ်ပါလော” ဟု ပြောလိုက် သည်။

” သူတို့ပြောပြချက်အရ တာကာတာကာသည် အကြီးအကျယ်ဒေါသထွက်ခဲ့သည်မှာ လေပြင်းမုန်တိုင်းကျရောက်ဘိ
ကဲ့သို့ ဖြစ်သည်ဟုဆို၏။ သူသည်ခြင်္သေ့တစ်ကောင်ကဲ့သို့ဒေါသတကြီး ဟိန်းဟောက်လျက်သူ၏ မျက်နှာ ကလည်း နီရဲရာမှ ခရမ်းရောင်ဖြစ်လိုက်၊ အမည်းရောင်ဖြစ်လိုက်နှင့် အရောင်အသွေး အမျိုးမျိုး ပြောင်းလဲ သွားသည် ဟုလည်း ဆိုကြကုန်၏။ သူသည် မာတာဘယ်လီလူမျိုးလမ်းပြအား အလွန်စိတ်ဆိုးလျက် သေနတ်ဖြင့် အသေပစ်သတ်ရန်ပင် ကြံစည်ခဲ့သေး၏။ သို့ရာတွင် သူ၏ အဖော်များကဖျောင်းဖျ၊ တားဆီး လိုက်ကြ၏။ မသတ်တော်လည်း
မာတာဘယ်လီလူမျိုးသစ္စာဖောက်အားသေလုမြောပါးရိုက်နက်ယုံ
မက သူပေးခဲ့သောရွှေဒင်္ဂါးများနှင့် ကျွဲနွား တိရစ္ဆာန်များကိုလည်း ပြန်လည်သိမ်းယူလိုက်သည်ဆို၏။

မုန်ယို နေသောဆင်ကြီးတစ်ကောင်ကဲ့သို့ ဒေါသကြီးနေသူ တာကာတာကာသည် နောက်ဆုံး၌ စိတ်ပျက်စွာ နှင့်ပင်ပြန်သွားပြီး ဤတောင်ပေါ်ဒေသသို့ နောက်ထပ်လုံးဝပြန်မလာခဲ့တော့ချေ။ ”

အဘိုးကြီး ၏ စကားဆုံးသွားသောအခါ တွန်ဂါတာသည် သက်ပြင်းချလိုက်သည်။

” အလွန်စိတ်ဝင်စားဖွယ်ကောင်းသော ပုံပြင်တစ်ခုဖြစ်ပါ၏။ တစ်နေ့ကျလျှင်ကျွန်ုပ်၏ သားသမီး များအားပြောပြပါမည်။ ယခုတော့မူအချိန်နှောင်းလှပြီ ဖြစ်၏ ”

တွန်ဂါတာ က ဆွေးနွေးခြင်းကိုရပ်စဲရန် အဓိပ္ပာယ်ဖြင့် ပြောလိုက်သော်လည်း

အဘိုးကြီးပူဆာမန်ဇီကမူ ပြောစရာ ကျန်သေးလေသည်။

" ပြောစရာမကုန်သေးပါဘူး၊ အို ....... အရှင် "

ပြောရင်းနှင့် အဘိုးကြီးသည် တွန်ဂါတာ၏ပခုံးပေါ်သို့ လက်တစ်ဖက်အသာတင်လိုက်သည်။

" အို...... အဘိုးအို၊ သင်ပြောစရာ စကားကကျန်ပါသေးသလော "

" ကျန်သေးပါ၏ အရှင်၊ကျွန်ုပ်တို့သည် အတိတ်ကာလဆီသို့ပြန်သွားရပေဦးမည်ဖြစ်၏။ တာကာတာကာ နှင့် သူ၏ အဖော် မာတာဘယ်လီသစ္စာဖောက်တို့ ဤတောင်ပေါ်ဒေသသို့ ရောက်လာသော အခါ ကျွန်ုပ်၏ ဘိုးအေအယ်ဆူရှာသည် ချက်ချင်းပင် သင်္ကာမကင်းဖြစ်ခဲ့၏။ တာကာတာကာ ဆိုသူကား အကြောင်းတစ်စုံတစ်ရာမရှိဘဲ ဤအရပ်သို့လာမည်မဟုတ်ဟု လည်း တွက်မိ ၏။

ထို့ကြောင့်ကျွန်ုပ်၏အဘိုး အယ်ဆူရှာသည် သူ၏ဇနီးများအနက် အချောဆုံး အလှဆုံး အမျိုးသမီးငယ် သုံးဦးတို့အား တာကာတာကာ၏ စခန်းသို့စေလွှတ်၍ ကြက်ဥ၊ နွားနို့စသော လက်ဆောင် ပဏ္ဏာများ သွားရောက် ပေးစေခဲ့၏။ မိန်းကလေး များက လက်ဆောင်များပေးရန်မေးမြန်းစုံစမ်းသောအခါ တာကာ တာကာက သူသည် ခြင်္သေ့သတ္တဝါများအား အမဲလိုက်ပစ်ခတ်ရန် ဤဒေသသို့ လာခဲ့ပါသည် ဟုပြောခဲ့သည်ဆို၏။ သို့သော တာကာတာကာသည် အလွန်လိမ်လည်တတ်သူတစ်ယောက် ဖြစ်ကြောင်း အားလုံး သိစေကြပြီ ဖြစ်ရာ အယ်ဆူရှာ၏အချောဆုံး အငယ်ဆုံးဇနီးငယ်က တစ်မျိုးကြံစည်ခဲ့ပြန်၏။ မာတာဘယ်လီ တစ္စာဖောက် ရေချိုးရာချောင်းထဲသို့လိုက်သွားပြီး မိန်းမမာယာဖြင့်ဖြားယောင်းမြူဆွယ်ရင် မေးမြန်း စုံစမ်း လိုက်သော အခါ သစ္စာဖောက်တဏှာရူးက အမှန်ကိုဖွင့်ပြောလိုက်တော့သည်ဆို၏။ မိန်းကလေးလည်း ကျွန်ုပ်အဘိုး ကဲ့သို့အမြန်ဆုံး ပြန်ပြေးသွား
တော့သည်။

ထိုအချိန်၌ အားလုံးစိတ်ပါဝင်စားနေကြပြီဖြစ်ရာ အဘိုးကြီးသည် သူ၏စကားကိုဆက်ပြောလေသည်။

" ကျွန်ုပ်၏ဘိုးအေကြီးသည် အလွန်ဒေါသထွက်လေတော့၏။ တာကာတာကာဆိုသူ မျက်နှာဖြူ

လူမျိုး သည် ကျွန်ုပ်တို့ ဘုရင်လိုဘင်ဂူလာ၏ သင်္ချိုင်းဂူကိုဖျက်ဆီးဖောက်ထွင်းရန် လာရောက်ကြောင်း ထင်ရှားနေပြီ ဖြစ်၍ ဘိုးအေကြီး က မခံမရပ်နိုင်ဖြစ်လာခဲ့၏။

သူသည် အတန်ကြာကြာအချိန်ယူ စဉ်းစားပြီးသူ၏လူယုံဆေးဆရာ (မှော်ဆရာ)လေးဦးတို့အား ခေါ်ယူလိုက်၏။ သူတို့သည်လပြည့်နေ့ညတွင် ဘုရင်သင်္ချိုင်းဂူသို့ လျှို့ဝှက်စွာသွားရောက်၍ ဘုရင်၏ ရုပ်ကလာပ် နှင့် တကွ ရတနာပစ္စည်းများကိုထုတ်ယူလျက် သင်္ချိုင်းဂူသို့မှ မူလအတိုင်းပြန်ပိတ်လိုက်ကြ၏။ ထို့နောက် ဘုရင်၏ရုပ်ကလာပ်နှင့် လှပတောက်ပြောင်သော ရတနာကျောက်များပါသည့် ဘီယာအိုး များကို လုံခြုံသောတစ်နေရာတွင် ဝှက်ထားလိုက်ကြသည်ဆို၏။ ကျွန်ုပ်ဖခင်ကြီးပြောပြ ချက်အရဆိုလျှင် အိုးတစ်လုံး မှောက်ကျသွား၍ စိန်ရတနာများလွင့်စဉ်ထွက်ကျသွားသည်ကို ကောက်ယူပြီး မြင်ကျားရေ အိတ်တစ်အိတ်တွင် ထည့်ထားလိုက်ကြသည်ဆို၏။ ဘုရင့်ရုပ်ကလာပ်ဝှက်ထားရာနေရာကိုလည်း မည်သူမှ မသိအောင် ပိရိစွာ ဖုံးအုပ်ထား လိုက်ကြ၏။ သို့ရာတွင်မည်သူမှ သတိမပြု မိလိုက်သော အချက် တစ်ခုရှိ၏။

ကျွန်ုပ်ကိုယ်တိုင် ဘီယာအိုး မှောက်ကျရာနေရာကို အမှတ်မထင်ရှာတွေ့ရှိပြီး စိန်ကြီးတစ်လုံး ကျကျန်ရစ်သည် ကိုလည်း ကောက်ယူရရှိခဲ့၏။ ဤမျှလောက်ဆိုရင် ကျွန်ုပ်စကားအဆုံး သတ်ရန်သင့်ပါပြီ။ သင်တို့သည် အိပ်ချင်ပါက အိပ်စက်ရန်သင့်ပါပြီ။ ကျွန်ုပ်ပြောဆိုသည့် ပုံပြင်သည်လည်းပြီးဆုံးပြီ ဖြစ်ပါ၏။

"အို ... အသင်အဘိုးအို၊ ဘုရင်၏ရုပ်ကလာပ်ကို မည်သည့်နေရာသို့ယူဆောင်သွားခဲ့ကြပါသနည်း၊ အသင် သိပါသလော "

တွန်ဂါတာက မေးလိုက်ရာ အဘိုးကြီးသည်ပြုံးလိုက်သည်။

"လူငယ်တစ်ဦးကလူကြီးများအား လေးစားစွာဆက်ဆံခြင်းမျိုး ယခုခေတ်တွင်ကြုံတွေ့ရသည်မှာ ကြည်နူးဖွယ် ကောင်းလှပါ၏။ အို... အသင်ကုမာလိုသားတော် ကျွန်ုပ်အမှန်ကို ဖြေကြားလိုပါ၏။ သို့သော် ကျွန်ုပ်သည် ဘုရင်၏သင်္ချိုင်းဂူနေရာကိုသိပါ ၏။ ယင်းလျှို့ဝှက်ချက်ကို ကျွန်ုပ်၏ ဖခင်ကြီး ကျွန်ုပ်အား ပြောပြခဲ့၍ သိရခြင်းပင်ဖြစ်ပါ၏။

"သို့ဖြစ်လျှင်သင်သည် ကျွန်ုပ်တို့အားထိုနေရာသို့ လမ်းပြခေါ်ဆောင်သွားနိုင်ပါမည်လော"

"နံနက်မိုးသောက်လျှင် ကျွန်ုပ်တို့သည်ဘုရင်၏ သင်္ချိုင်းရှိရာသို့ ခေါ်ဆောင်သွားပါမည်။

သို့ရာတွင်ယခု လောလော ဆယ် ကျွန်ုပ်၏လည်ချောင်းအလွန်ခြောက်နေပြီဖြစ်၍ ဘီယာအိုး ကိုသာ ကျွန်ုပ် အား လှမ်းပေးကြပါလော့ ”

အဘိုးကြီးပူဆာမန်ဇီ က ပျော်ရွှင်ဝမ်းမြောက်ဟန်နှင့် ပြောလိုက်လေသည်။

[တက္ကသိုလ် နေဝင်း ဘာသာပြန် ဇင်ဘာဘွေ အခန်း (၃၈)]()

**အခန်း(၃၈)**

ခရိတ်သည် အိပ်ပျော်နေရာမှပြန်နိုးလာသောအခါ နံနက်ခင်း၏သဘာဝအလင်းရောင်ဂူ၏ မျက်နှာကြက် အမိုးရှိ အပေါက် မှ ထိုးဝင် နေပြီ ဖြစ်လေသည်။

မိန်းကလေးများကနံနက်စာချက်ပြုပ်နေသော မီးဖိုမှမီးခိုးများလည်း တလူလူထွက်နေပြီဖြစ်သည်။

နံနက်စာဝိုင်းစားနေကြစဉ်(အဘိုးကြီးပူဆာမန်ဇီက စိတ်မပါ့တပါဖြင့် ခွင့်ပြုချက်အရ) ဘုရင် လိုဘင်ဂူလာ၏ ရုပ်အလောင်း အား ဒုတိယအကြိမ်ပြန်လည်သင်္ဂြိုဟ်ခဲ့ပုံအကြောင်းကို ခရိတ်က ဆယ်လီ နှင့် ဆာရာတို့အား အင်္ဂလိပ်ဘာသာဖြင့် ပြောပြ လေသည်။

အမျိုးသမီးနှစ်ဦးစလုံးသည် အထူးပင်စိတ်ဝင်စားလာကြကာ ခရိတ်တို့ဆက်သွားကြမည့် ခရီးတွင် သူတို့ လည်း အတူ လိုက်ပါကြရန်စိတ်အားထက်သန်လာကြလေတော့သည်။

အဘိုးကြီး ပူဆာမန်ဇီမှု အမျိုးသမီးများလိုက်ပါခြင်းကို သဘောကျပုံမရချေ။

” သို့ရာတွင် ဆာရာကချစ်စဖွယ်ပြုံးလျက် အဘိုးကြီးနားသို့ကပ်ကာလိုက်ပါရစေဟု အတင်းချဉ်းကပ် ပူဆာလေသော အခါ အဘိုးကြီးသည် ဆာရာနှင့်ဆယ်လီတို့လိုက်ပါရန် သဘောတူလိုက်လေသည်။

ထို့နောက်အဘိုးကြီး၏ ညွှန်ကြားချက်ဖြင့်ယောက်ျားများက ခရီးထွက်ရန် ပြင်ဆင်မှုများ ပြုလုပ် ကြလေ သည်။ ဂူတွင်း တစ်နေရာ၌ရှိနေသော ရေနံဆီမှန်အိမ်တစ်လုံး၊ ပုဆိန်နှစ်လက်နှင့် ခိုင်ခံ့သော နိုင်လွန်ကြိုး တစ်ခွေ တို့ကို ထုတ်ယူလိုက်ကြသည်။

” ဒီနိုင်လွန်ကြိုးက အလွန်ခိုင်ခံ့သည့်အတွက် ကျွန်ုပ်တို့သည် တော်လှန်ရေး စစ်ပွဲအတွင်းက

မျက်နှာဖြူ (ဝန်ကြီးချုပ် စမစ်၏) အစိုးရတပ်များထံမှ ရယူခဲ့ခြင်းဖြစ်၏ ”
ဤသို့လျှင် အဘိုးကြီးက ကြွားဝင့်ဟန်ဖြင့်ပြောလေသည်။

ထို့နောက်သူတို့သည် စတင်ထွက်ကြရာ အဘိုးကြီးပူဆာမန်ဇီက ရေနံဆီမီးအိမ်ကိုကိုင်လျက် ရှေ့ဆုံးမှ သွားလေသည်။ သူသည်ကြိုးခွေ၏အစကိုကိုင်ထားပြီး
အမျိုးသမီးနှစ်ဦးကကြိုးကိုကိုင်လျက် အလယ်မှ လိုက်ကြရသည်။
ခရိတ်က နောက်ထပ်ရေနံဆီမီးအိမ်တစ်လုံးနှင့် ကြိုးခွေတစ်ခွေကို ကိုင်ကာနောက်ဆုံးမှ လိုက်ရလေသည်။
အဘိုးကြီး ပူဆာမန်ဇီ သည် ရှေ့ဆောင်သွားရင်းအလွန်ကျဉ်းမြောင်းသောဂူတွင် လမ်းကျဉ်းတစ်ခုမှသွားရာ တစ်နေရာ သို့အရောက်တွင် လမ်းကနှစ်ခွဖြစ်နေလေသည်။
သို့သော်အဘိုးကြီးသည် လုံးဝ တွေဝေ စဉ်းစားခြင်း မပြုဘဲ တစ်ခုသောလမ်းသို့ ချိုးဝင်လိုက်သည်။

ခရိတ်သည်ထိုနေရာရှိကျောက်ဂူနံရံတွင်သူ၏ဓားမြှောင်ဖြင့်နံရံတွင်အမှတ်အသားပြုလုပ်ထားလိုက်သည်။နောင်အခါတွင်သူတစ်ယောက်တည်းလာရပါကလမ်းကိုမှတ်မိအောင်အမှတ်အသားပြုလုပ်ထားလိုက်ခြင်းပင်ဖြစ်လေသည်။
တောင်အတွင်းရှိ ဂူများ၊ ဥမင်လိုဏ်ခေါင်းများသည် သုံးဘက်မြင်ဝင်္ကပါတစ်ခုကဲ့သို့ အလွန်ရှုပ်ထွေးများပြား လှလေသည်။ ဂူများ နှင့် လမ်းကျဉ်းများသည် ထုံးကျောက်များလို နှစ်ပရိစ္ဆေကြာမြင့်စွာမိုးရေ တိုက်စား၍ သဘာဝအလျောက် ဖြစ်လာကြဟန်တူလေသည်။
တစ်နေရာတွင်ထုံးကျောက်များသည် လှေကားထစ် သဖွယ်ပင် ဖြစ်နေသည် ကို ခရိတ်က သတိပြုမိသည်။

သူသည် အထူးဂရုစိုက်လျက်သွားသည့်လမ်းတစ်လျှောက်လုံး သေချာစွာမှတ်သားထားလိုက်သည်။
ထူးဆန်း သည်ကား လမ်းတစ်လျှောက်လုံး လေကောင်းလေသန့်ရရှိနေခြင်းပင်ဖြစ်သည်။
မိနစ်နှစ်ဆယ်ခန့် သွားမိသော် အလွန်မတ်စောက်သောချောက်ကမ်းပါးကဲ့သို့နေရာတစ်ခုသို့ ရောက် သွားကြ လေသည်။ ရေနံဆီမီးအိမ်အလင်းရောင်ဖြင့် ငုံ့ကြည့်လိုက်လျှင်ပင် အောက်ခြေသို့ မမြင်ရ လောက် အောင် နက်သော ချောက်ကြီးဖြစ်နေလေသည်။ ကျောက်သားများက သဘာဝ အလျောက် ချောက် ကမ်းပါး ကြီး ဖြစ်နေပုံရလေသည်။

ပူဆာမန်ဇီ၏ညွှန်ကြားချက်ဖြင့် နိုင်လွန်ကြိုးကိုကျောက်တုံးတစ်ခုတွင် နိုင်မြဲစွာချည်နှောင်လျက် တစ်ယောက် ပြီး တစ်ယောက် ကြိုးကိုတယ်ကာ ဖြည်းဖြည်းချင်းအောက်သို့ ဆင်းကြရာ အောက်ခြေမှာ ပေငါးဆယ် ခန့်ရှိကြောင်း တွေ့ရ လေသည်။

အောက်ရောက်ပြန်သောအခါ နှစ်ဖက်နှစ်ချက်ကျောက်သားနံရံဖြင့်ပြီးသည့် ကျည်းမြောင်းသော နေရာ တစ်ခု ဖြစ်နေသည်ကိုလည်း တွေ့ရလေသည်။
ထိုနေရာ မှ တစ်ဆင့်အဘိုးကြီးပူဆာမနဇီကပင် ရှေ့ဆောင်လျက် နောက်ထပ် တစ်ဆင့် ကြိုးခွေများကို အသုံးပြု လျက် အောက် သို့ ဆက်ဆင်းကြရပြန်လေသည်။
သည်တစ်ခါဆင်းရသည်မှာ အလွန်နက်သဖြင့်ကြိုးခွေ၏အဆုံးသို့ ရောက်ခါနီးကျမှပင် အောက်ခြေကို ခြေထောက် မိလေ သည်။
သူတို့ရောက်ရှိသွားသောနေရာကား မြေအောက်ရေကန်တစ်ခုအနီး ဖြစ်နေလေသည်။ သဘာဝ အလျောက် ဖြစ်နေသော ချိုင့်ဝှမ်းကြီးအတွင်း မိုးရေများပြည့်၍ရေကန်တစ်ခုဖြစ်နေခြင်းဟု ထင်ရပေသည်။
ရေ ကလည်း အတော်နက်ပုံရသည်။

" ကိုင်း.... သူငယ်ချင်း၊ ဒီတစ်ခါတော့ရေကူးရလိမ့်မယ် ထင်တယ်ဗျို့ "
တွန်ဂါတာ ကမူ အဘိုးကြီးပူဆာမန်ဇီအား လှမ်းကြည့်လိုက်လေသည်။
" ယခု ဘယ်ဆက်သွားရပါမည်နည်း၊ အို .... ဖခင် "
တွန်ဂါတာ က မေးလိုက်လျှင် အဘိုးကြီးက ရှင်းပြလေသည်။

" တာကာတာကာဆိုသူ ဤတောင်ပေါ်ဒေသသို့ လာရောက်စဉ်အချိန်က (ကျွန်ုပ်၏ ဘိုးအေ နှင့် ဖခင်ကြီး တို့က ဘုရင် လိုဘင်ဂူလာ၏ ရုပ်ကလာပ်ကိုထန်းသိမ်းဆောင့်ရှောက်ရန် ယူလာခဲ့စဉ်က) နှစ်ပေါင်းများစွာ မိုးခေါင်ရေရှားခဲ့သဖြင့်ဤရေကန် ၌ အလွန်ရေတိမ်ခဲ့ပါ၏။
သို့သော်နောက်ပိုင်းကာလတွင်မူ နှစ်စဉ် လိုပင် ရာသီဥတုအခြေအနေပြောင်းပြီး မိုးဆက်တိုက်ရွာသွန်း ခဲ့ခြင်းကြောင့် ရေအိုင်ထဲ၌ ရေ တဖြည်းဖြည်း ပြည့်သည်ထက် ပြည့်လာခဲ့၏။ ယခုဆိုလျှင် ရေမျက်နှာပြင်ကအလွန်မြင့်လျက် ရှိပေပြီ"

ဘုရင်၏ရုပ်အလောင်းသည် ဤရေအောက်တွင် ရှိပါသလာ”

ဟုတ်မှန်၏ ”

အို.... အသင် အဘိုးအို၊ ဘုရင်၏သချိုင်းကို သင်ကိုယ်တိုင်မျက်စိဖြင့်မြင်ဖူးပါသလော”

ခရိတ် က မေးလိုက်ရာ အဘိုးကြီးက

ကျွန်ုပ်ကိုယ်တိုင်မမြင်ဖူးပါ။ သို့သော်ကျွန်ုပ်၏ဖခင်ကြီးက အသေးစိတ်ပြောပြခဲ့ပါသည်” ဟု ပြန်ဖြေ လေသည်။

ခရိတ်သည်ရေကန်နံဘေးတွင် ဒူးထောက်ပြီးလက်တစ်ဖက်ဖြင့် ရေကိုနှုက်စမ်းကြည့်ရာ အလွန်အေးမြ လျက်ရှိကြောင်း တွေ့ရလေသည်။ ရေခဲရေကို ကိုင်ရသလိုဖြစ်နေ၍ ချက်ချင်း ပင်လက်ကို ပြန်ရုပ် လိုက်မိ လေသည်။

ထိုအချိန်၌ တွန်ဂါတာသည် ခရိတ်အားကြည့်နေပုံက ထူဆန်းနေရာခရိတ်ကအဓိပ္ပယ်ကို ချက်ချင်း ရိပ်မိပြီး သဘောမကျ သလို ဖြစ်သွားလေသည်။

သူငယ်ချင်းမာတာဘယ်လီ ခေါင်းဆောင်ကြီး၊ ခင်ဗျားကျုပ်ကိုကြည့်လိုက်ပုံကို နားလည် သဘောပေါက် ပါတယ်။ အဲ့ဒါ  ကိုခင်ဗျားမေ့ပစ်ရင် ကောင်းလိမ့်မယ်”

ကျွန်ုပ် က ရေမကူးတတ်ဘူးဗျ ”

တွန်ဂါတာက ပြောပြန်ရာ ခရိတ်က -

အဲ့ဒါကိုလည်းမေ့ပစ်လိုက်ပါ” ဟုပြန်ပြောလိုက်သည်။

တဖန်သူကပင်ဆက်လက်၍

ကျုပ်တို့က ခင်ဗျားရဲ့ခါး မှာ ကြိုးနဲ့ချည်ထားလိုက်မယ်။ ခင်ဗျားဘာမှအန္တရာယ်မရှိစေရပါဘူး” ဟု ပြော လိုက်သည်။

လက်နိပ်ဓာတ်မီးကတော့ ရေအောက်မှာလည်းလင်းနေလိမ့်မည်။ ရေစိမ်ခံနိုင်တဲ့ ဝါတာပရူ အမျိုးအစားဖြစ်တယ်”

တွန်ဂါတာက ပြောလိုက်ပြီးနောက် -

တစ်ခါတုန်းကခင်ဗျားဟာ အလောင်းအစားလုပ်ပြီး လင်ပိုပိုမြစ်ကိုဖြတ်ပြီးရေကူးခဲ့တာ မှတ်မိသေးလား။ လောင်းတာ က လည်းဘီယာတစ်သေတ္တာပေးကြေး လောင်းခဲ့တယ်လေဗျာ”

အဲ့ဒီနေ့ကကျုပ်အရက်မူးနေလို့ပါ။ အခုတော့မူးနေတာမှ မဟုတ်ဘဲ”

ခရိတ်ပြောရင်းဆယ်လီဘက်သို့ စစ်ကူတောင်းသလိုလှမ်းကြည့်လိုက်သည်။

သို့သော်ဆယ်လီသည် စိတ်မဝင်စား သလို ဘာသိဘာသာနေလိုက်သဖြင့်ခရုတ်လည်း စိတ်ဓာတ်ကျသွားမိလေသည်။

လင်ပိုပိုမြစ်ထဲမှာ မိကျောင်းတွေရှိတယ် မဟုတ်လားရှင့် ”

ဆယ်လီကမှတ်ချက်ချသလိုပြောလိုက်ချိန်တွင် ခရိုတ်သည်သူ၏ရှပ်အင်္ကျီကို ချွတ်ပစ်လိုက်ပြီး ကြိုးခွေ ကိုပါ အသင့်ပြင် ဆင်လေသည်။

ထို့နောက်သူ၏ခြေတုတစ်ဖက်ကို ဖြုတ်ယူ၍ဘေးတွင် ချထားလိုက်သည်ကို အားလုံးကစိတ်ဝင်စားစွာ ဝိုင်းကြည့်နေကြ လေသည်။

ခရိုတ်သည် အတွင်းခံဘောင်းဘီသာဝတ်လျက် ခြေတစ်ဖက်ဖြင့်မတ်တတ်ထလိုက်သည်။ တွန်ဂါတာ ကကြိုးခွေကိုဖြေ၍ သူ၏ခါးတွင်ချည်နှောင်ပေးရင်း-

သူငယ်ချင်းခရိတ်မထူးပါဘူး၊အတွင်းခံဘောင်းဘီကိုပါချွတ်ပစ်လိုက်ပါတော့လား။ ဘာဖြစ်လို့ ရေစိုခံ မှာလဲ။ နောက် တော့အဝတ်အစားခြောက်ခြောက်သွေ့သွေ့လိုမယ်မဟုတ်လား” ဟု ပြောလိုက်သည်။

ခရိုတ်ကမူ မလှမ်းမကမ်းရှိ ဆာရာအားညွှန်ပြလျက်-

သူရှိနေတယ်လေဗျာ ဟုပြောလိုက်သည်။

ကိစ္စမရှိပါဘူး သူငယ်ချင်းရဲ့။ ဆာရာက မာတာဘယ်လီအမျိုးသမီးပဲ၊ ကျုပ်တို့အမျိုသမီးတွေက ဝတ်လစ် စလစ် မြင်ရ တာကိုဘယ်လိုမှ စိတ်ထဲမအောက်မေ့ပါဘူး”

တွန်ဂါတာ၏စကားကိုဆယ်လီကြားသွားသဖြင့် ပြုံးလိုက်လေသည်။

နေပါစေရှင့်၊ သူရဲ့လျှို့ဝှက်ချက်ကိုလူသိမှာ စိုးနေဟန်တူပါတယ်”

ဆာရာကရယ်သွမ်းသွေး၍ ပြောလိုက်ချိန်တွင်ခရိုတ်သည်ချောင်းကူးတံတားတိုက်ပွဲတုန်းက ဆာရာ ကိုယ်တိုင် အဝတ် မပါဗလာကျင်းနေခဲ့ပုံကို သတိရလေမိသည်။

ထို့နောက် သူသည် အတွင်းခံဘောင်းဘီကိုပါချွတ်ပစ်လိုက်ပြီးရေထဲဆင်းလိုက်လေသည်။

[တက္ကသိုလ် နေဝင်း ဘာသာပြန် ဇင်ဘာဘွေ အခန်း (၃၈) အဆက် (၁)]()

ရေလယ်ကောင်ဘက် ဆီသို့ ကူးသွားပြီးနောက် ခရိတ်က ကမ်းဘက်သို့ လှမ်း၍
" ကျုပ် အခု ရေအောက်ထဲ ငုပ်သွားတုန်းမှာ နာရီကြည့်ထားပါ။ စက္ကန့်ခြောက်ဆယ်ကြာတိုင်း ကြိုးကို နှစ်ကြိမ် တို့ဆွဲလိုက်ပါ၊ သုံးမိနစ်တိတိကြာရင်တော့ ကျုပ်ကို အပေါ်သာ ဆွဲတင်လိုက်ပေတော့" ဟု အော်ပြော လိုက်သည်။

" အိုကေ"
တွန်ဂါတာက ပြန်ပြောရင်း ကြိုးခွေကို တဖြည်းဖြည်း ဖြေထုတ်၍ ဆန့်ပေးလေသည်။
ခရိတ်သည် ရေငုပ်ရန် ပြင်ဆင်သည့်အနေဖြင့် သူ၏ အဆုတ်တွင်းမှ ကာဗွန်ဒိုင် အောက်ဆိုဒ်
ဓာတ်ငွေ့များကို ရှူထုတ်ပစ်လိုက်သည်။ ထို့နောက် လေကို အားရပါးရ ရှူရှိုက်လျက်
ရေအောက်ထဲသို့ ငုပ်ဆင်း သွားလေသည်။

ခေတ်မီ ရေငုပ်သမားများကဲ့သို့ ရေငုပ်ကိရိယာတန်ဆာပလာများမပါဘဲ ရေအောက်တွင်းသို့ ငုပ်ဆင်းရ သည်မှာ အလွန် အန္တရာယ် များလှပေသည်။
ယခုခေတ် ရေငုပ်သမားများ သုံးသည့် မှန်တပ်ထားသော ဦးခေါင်းဆောင်းကိရိယာ (ခမောက်) လည်း မပါ သဖြင့် ရေထဲတွင်ကြည့်၍ ကောင်းမွန်ကြည်လင်စွာ မမြင်ရဘဲ လက်နှိပ်ဓာတ်မီးဖြင့်သာ ထိုးကြည့်ရင်း ဆက်ငုပ် သွားရသည်။

ခေါင်းဆောင်းကိရိယာတပ်ထားသလို နားနှစ်ဖက်ကို ကာကွယ်မထားသဖြင့် ခရိတ်၏ နားများမှာ ပြင်းစွာ နာကျက် လျက် ရှိလေသည်။
သူ၏ ခါးတွင် ချည်နှောင်ထားသော ကြိုးကို နှစ်ကြိမ်ဆက်၍ တို့ဆွဲလိုက်သဖြင့် သူသည် ရေအောက်၌ တစ်မိနစ်တိတိ ကြာသွားပြီဖြစ်ကြောင်း သိရလေသည်။ ထိုအချိန်မှာပင် သူ၏ အောက်တည့်တည့် ရေအောက်ထဲတွင် သင်္ချိုင်းဂူသဏ္ဍာန်လိုလို မြင်ရလေသည်။

ခရိတ်လည်း စိတ်ဝင်စားစွာဖြင့် သင်္ချိုင်းဂူရှိရာသို့ ချဉ်းကပ်သွားလေသည်။ ဂူမှာ ထုံးကျောက်ဖြင့် ပြုလုပ် ထားပြီး ဝင်ပေါက်တစ်ခုလည်း ရှိသည်ကို သတိပြုမိလေသည်။
ထိုအချိန်၌ ခရိတ်၏ စိတ်ထဲတွင် ကျောချမ်းသလို ကြပ်သီးထသလို ခံစားရမိလေသည်။
ကြောက်စရာ ကောင်းသော လျှို့ဝှက်ဆန်းကြယ်သည့် နေရာတစ်ခုသို့ တစ်ယောက်တည်း

ရောက်နေ၍ ကြောက်သလို ဖြစ်လာ မိသည်။

တစ်ချိန်တည်းမှာပင် သူ၏ ခါးမှ ကြိုးကို နှစ်ကြိမ်ဆက်၍ တုံ့ဆွဲလိုက်သဖြင့် နှစ်မိနစ်ကြာသွားပြီဟု သိရလေသည်။ သူ၏ အဆုတ်မှာလည်း လေမရှူရ၍ အောက်ဆီဂျင်ဓာတ် ခန်းခြောက်ကာ ပြင်းစွာ နာကျင် လျက် ရှိပြီ ဖြစ်သည်။
သို့သော် စိတ်ဝင်စားမှုက ပြင်းထန်နေသဖြင့် ဂူပေါက်ဝဆီသို့ ချဉ်းကပ်သွားမိလေသည်။
အသက်မရှူရ၍ အူ၏ အဆုတ်များ လွင့်ထွက်လုမတတ် ခံစားနေရလင့်ကစား ခရိတ်သည် ဂူပေါက်ဝအတွင်းသို့ ဝင်၍ လေ့လာကြည့်လေသည်။ လက်ဖြင့် စမ်းသပ်ကြည့်ရင်း သတ္တုကဲ့သို့ အရာဝတ္ထု မာမာ တစ်ခု စမ်းမိသဖြင့် ဆုပ်ကိုင်ယူလိုက်လေ၏။

တစ်ချိန်တည်းမှာပင် သူဝင်လိုက်သော ဂူပေါက်ဝ အထက်နားရှိ ထုံးကျောက်နှင့် အင်္ဂတေများ ပြိုအက်ကာ ဂူပေါက်ပိတ်ဆို့သွားနိုင်မည့် အန္တရာယ်ကို တွေးမိသဖြင့် လျင်မြန်စွာ ပြန်ထွက်လိုက်ရသည်။
အသက်မရှူ ရ၍ အောက်ဆီဂျင်ဓာတ် မရသောကြောင့် တစ်ကိုယ်လုံး ထူပူကာ သတိမေ့တော့မလို ဖြစ်နေ၍ မနည်းကြိုးစား သတိထားနေရသည်။ ထိုအချိန်မှာပင် သူ၏ ခါးမှကြိုးကို အပေါ်မှ ဆွဲတင်စ ပြုနေကြောင်း သိရလေသည်။

သုံးမိနစ်ပြည့်၍ တွန်ဂါတာက ကြိုးကို အပေါ်သို့ ဆွဲတင်နေခြင်း ဖြစ်လေသည်။ မကြာမီ သူသည် ရေမျက်နှာပြင် ပေါ်သို့ ရောက်သွားလေရာ ရေထဲသို့ ဒူးဆစ်ခန့် မြုပ်အောင် ဆင်းစောင့်နေသူ တွန်ဂါတာက သန်မာ သော လက်မောင်းကြီးများဖြင့် ခရိတ်အား ဖမ်းဆွဲ၍ ကမ်းစပ်ဆီသို့ တွဲခေါ်သွားလေသည်။
အမျိုးသမီး နှစ်ဦး ကလည်း ရေစပ်တွင် အသင့်စောင့်နေပြီး ခရိတ်အား ဝိုင်းကူဆွဲတင်ပေးကြလေသည်။

ခရိတ်သည် ခြေပစ်လက်ပစ် လဲကျသွားကာ ပါးစပ်မှ ရေတွေ အန်ထုတ်ရင်း ချောင်းတဟွတ်ဟွတ် ဆိုးနေလေသည်။
ဆယ်လီ က သူ့အား မှောက်လျက်နေစေပြီး ကျောပြင်ကို လက်နှစ်ဖက်ဖြင့် ဖိ၍ နှိပ်ပေးလေသည်။

ဤတွင် ခရိတ် ၏ ပါးစပ်မှ ရေတွေ တရဟော အန်ထွက်လာလေသည်။
အတန်ကြာ မှ သူသည် ထထိုင်နိုင်တော့သည်။

" ဘယ့်နှယ်လဲရှင့် ဘယ်လို နေသေးသလဲ"
ဆယ်လီက စိုးရိမ်ပုံဟန်ဖြင့် မေးရာ ခရိတ်က မချိသွားဖြဲ ပြုံးလျက်-
" ကောင်းပါတယ်ကွာ၊ အခုလို တစ်ခါတလေ ရေငုပ်ရတာ ကောင်းပါတယ်"ဟု ပြန်ပြောလိုက်သည်။
တွန်ဂါတာကလည်း ခရိတ်ကို အကဲခတ်ကြည့်ပြီး ဆယ်လီဘက်သို့ လှည့်၍-
"ဘာမှ မစိုးရိမ်ပါနဲ့၊ သူက အခြေအနေ ကောင်းပါတယ်။ အခုလို စကားကို ဘုကျကျပြောလာပြီဆိုရင် သူ့ အခြေအနေ ကောင်းတာ သေချာပါတယ်" ဟုပြောလိုက်သည်။
ခရိတ်သည် လက်ဖျားများ အေးနေသဖြင့် ရေနံဆီမှန်အိမ်အနီးသို့ လက်များကပ်ထားပြီး အနွေးဓာတ်များကို ယူနေလေသည်။

ဆာရာသည် ခရိတ်၏ ကိုယ်၌ အဝတ်မပါ ဗလာကျင်းနေသည်ကို ကြည့်ပြီး တွန်ဂါတာဘက်သို့ ပြုံးစေ့စေ့ လှမ်းကြည့် လိုက်သည်။ ခရိတ်လည်း ကပျာကယာ အတွင်းခံဘောင်းဘီကို ဆွဲဝတ်လိုက်ရလေသည်။

ဆယ်လီ သည် ခရိတ်ဘက်မှ ရှေ့နေလိုက်သည်ဟန်ဖြင့် ဆာရာအား- ပုံမှန်အတိုင်း ရှင်တို့ မတွေ့ရတာပါ" ဟု ပြုံး၍ ပြောလိုက်သည်။
ခရိတ်သည် ရေအောက်သင်္ချိုင်းဂူထဲမှ ကောက်ယူလာသော သတ္တုပစ္စည်းများကို သတိရသဖြင့် ထုတ်ကြည့် လိုက်ရာ သံအတိုအစတစ်ခု ဖြစ်နေသည်ကို တွေ့ရလေသည်။ ၏
"ဒါက သံကြိုးတစ်ခုရဲ့ အစိတ်အပိုင်းပဲ။ နွားလှည်းမှာအသုံးပြုတဲ့ သံကြိုးမျိုးဖြစ်တယ်"
ခရိတ် က သံစကို ကြည့်ရင်း ပြောလိုက်သည်။

ထိုအချိန်ထိ ဘာမှ ဝင်မပြောဘဲ ဆိတ်ဆိတ်နေ၍ ထိုင်ကြည့်နေသူ ဗူဆာမန်ဇီသည် ယခုမှ စကား ပြောလေ သည်။
"ဒီပစ္စည်းဟာ ဘုရင် လိုဘင်ဂူလာရဲ့ သီးသန့်လှည်းမှာ အသုံးပြုတဲ့ သံကြိုးအပိုင်းအစ ဖြစ်တယ်။ ကျူပ်ရဲ့ အဘိုး က ဘုရင်ရဲ့ ရုပ်ကလပ်ကို အောက်ကိုချရာမှာ ဒီသံကြိုး အသုံးပြုခဲ့တယ်"

"ဒါဖြင့် သူငယ်ချင်းက ဘုရင်ရဲ့ သင်္ချိုင်းဂူကို တွေ့ခဲ့ပြီဆိုပါတော့"

တွန်ဂါတာက မေးလိုက်ရာ ခရိတ်ကဘလည်း သူ၏ ခြေတုကို ပြန်တပ်ဆင်ရင်း-
"ဟုတ်တယ် ထင်တာပဲ။ သင်္ချိုင်းဂူမှာ ဗူဆာမန်ဇီ ပြောပြတဲ့အတိုင်း ဝင်ပေါက်တစ်ခုလည်း ရှိတယ်။ ဝင်ပေါက် က ဂူရဲ့ ထိပ်ဖျားကနေပြီး ဆယ့်ငါးပေလောက် အောက်ဘက်မှာ ရှိတယ်။ အဲဒီဝင်ပေါက်က ဝင်သွား လိုက်ရင် ပေနှစ်ဆယ်လောက်ရောက်တော့ ပိတ်နေပြန်တယ်။ ထုံးကျောက်တုံးကြီးတွေနဲ့ စနစ်တကျ စီပြီး ပိတ်ထားတယ်။ ကျောက်တုံးကြီးတွေက ဘယ်လောက် ထုထည်ရှိတယ်ဆိုတာတော့ ခန့်မှန်း လို့ မရဘူး။ ကျုပ်ကလည်း ခေတ်ပေါ်ရေငုပ်ကိရိယာ တန်ဆာပလာတွေ မပါတော့ စက္ကန့်သုံးဆယ် ထက် ပိုပြီး နေလို့မရဘူး"

ဆယ်လီသည် အထူးစိတ်အားထက်သန်ပုံရလျက်-
"ဘာပဲဖြစ်ဖြစ် အခု အခြေကျမှတော့ ကျွန်မတို့ နောက်ဆုတ်လို့ မဖြစ်တော့ဘူးရှင့်။ နောက်ပြီး ကျွန်မအနေနဲ့ ရေအောက်ထဲက သင်္ချိုင်းဂူထဲမှာ ဘာတွေရှိတယ်ဆိုတာ မသိရမချင်း ကျွန်မတော့ ကျေနပ် မှာ မဟုတ်ဘူး" ဟုပြောလေသည်။
ဤတွင် ခရိတ်က စကားကို သရော်သလို ပြောလိုက်ဟန်ဖြင့်-

"ကျုပ်ကတော့ လူတကာ အကြံပြုတာကို လက်ခံဖို့ အသင့်ပါပဲ။ ဒါထက်ခေတ်မီရေငုပ်ကိရိယာ တစ်စုံလောက် ဘယ်မှာရနိုင်မှာလဲ။ ဒါမှမဟုတ် မှော်ဆရာကြီးဗူဆာမန်ဇီကို ဆိတ်တစ်ကောင်သည် ဉာဏ်ပူဇော်ခ ပေးပြီး မျက်လှည့်အတတ်နဲ့ ရေကန်ထဲက ရေတွေခန်းအောင် လုပ်ခိုင်းရင် ကောင်းမလား"ဟု ပြော လိုက်သည်။
"ရှင်ကလည်း အရေးထဲ ခွစကား ပြောနေပြန်ပါပြီ"
ဆယ်လီက မျက်စောင်းထိုး၍ ပြောလိုက်သည်။

သည်တော့မှ ခရိတ်က အလျှော့ပေးသလို ခေါင်းညိတ်လိုက်လေသည်။
လိုဏ်ဂူအောက်မှ မြေမျက်နှာပြင်သို့ ပြန်တက်ကြသောအခါ မည်သူမှ စကားမပြောဘဲ အားလုံး ကိုယ့်စိတ်ကူး နှင့်ကိုယ် တိတ်ဆိတ်ငြိမ်သက်စွာနှင့်ပင် တက်လာကြလေသည်။
ခရိတ်ကမူ တောင်အောက်လိုဏ်ဂူများအတွင်းရှိ လမ်းကျဉ်းများနှင့် တကွလမ်းနှစ်ခွရှိရာနေရာများကို

အထူး ဂရုစိုက်၍ မှတ်သားခဲ့လေသည်။
လိုဏ်ဂူ အတွင်းရှိ သူတို့ စောစောက ဖြတ်သန်းလာခဲ့သော ခန်းမကျယ်ကြီးသို့ ရောက်သောအခါ
အနည်းငယ် စိတ်ကြည်လင်လာကြလေသည်။

စောစောက စိတ်ဓာတ်ကျနေကြသလောက် လက်ဖက်ရည်ပူပူ သောက်လိုက်ရသောအခါ
အနည်းငယ် စိတ်ကြည်လင် လာလေသည်။
အဘိုးကြီး ပူဆာမန်ဇီသည် သူ၏အာဘော်ကို လက်ဖက်ရည်သောက်ရင်း ပြောလေသည်။
"ကျွနုပ် အနေဖြင့် ကျေးရွာသို့ ပြန်သွားရပေမည်။ အကယ်၍ ရိုနာစစ်သားများရွာသို့ ရောက်လာပြီး
ကျွနုပ် အား မတွေ့ရလျှင် သံသယဖြစ်ကြမည်မှာ အမှန်ပင် ဖြစ်သည်။ ထိုအခါ ရိုနာသတ္တဝါများသည်
ကျွနုပ်၏ အမျိုးသမီး များအား ညှန်းပန်းနှိပ်စက်စော်ကားကြလိမ့်မည်။ ထို့ကြောင့် ကျွနုပ်က ရွာပြန်၍
အမျိုးသမီး များအား ကာကွယ်စောင့်ရှောက်ရမည် ဖြစ်သည်။ ရိုနာစစ်သားများပင်လျှင် ကျွနုပ်၏
မှော်ပညာအတတ်၊ မျက်လှည့် ပညာ အတတ် တို့ကို ကြောက်ရွံ့ကြကုန်၏"

ပြောရင်းနှင့် အဘိုးကြီးသည် သူ၏ ပစ္စည်းများနှင့် တောင်ဝှေးကို ကောက်ယူလိုက်သည်။
တစ်ဖန် ကျန်လူများအား အဘိုးကြီးက ဆက်လက် ညွှန်ကြားလေသည်။
"သင်တို့အားလုံးကမူ လိုဏ်ဂူအတွင်းမှာပင် တောက်လျှောက် နေကြမှ ဖြစ်ပေမည်။ ဂူအတွင်းမှ
ထွက်လိုက် ပါက ရန်သူရိုနာစစ်သားများ တွေ့သွားနိုင်သည့် အန္တရာယ် ရှိပေသည်။ ဤနေရာ၌
သင်တို့အတွက် စားစရာ နှင့် သောက်ရေအပြင် မီးဖိုရန် ထင်း၊ ခြုံရန် စောင်များ၊
ရေနံဆီမီးအိမ်များလည်း ရှိသဖြင့် သင်တို့ အပြင်ဘက် ထွက်ရန်လည်း မလိုချေ။ သန်ဘက်ခါကျလျှင်
ကျွနုပ်၏ အမျိုးသမီးများက သင်တို့ထံသို့ လာ၍ စားစရာ များနှင့် သတင်းများပါ ယူလာကြမည်
ဖြစ်သည်"

ဤသို့ပြောပြီး အဘိုးကြီးသည် တွန်ဂါတာ၏ ရှေ့တွင် ရှိသေစွာ ဒူးတုပ်လိုက်သည်။
" အို... အရှင် ကူမာလို၏ သားတော်မင်းသား ဤနေရာတွင် စိတ်ချမ်းသာစွာ နေပါလော့။ ကျွနုပ်၏
နလုံးသား က သင်သည် အတိတ်တဘောင်မှ ခြသေ့ငယ်အမှန်ဖြစ်သည်ဟု ပြောနေပါ၏။ သင်သည်
ဘုရင် လိုဘင်ဂူလာ ၏ ဝိညာဉ်ကို အနှောင်အဖွဲ့မှ လွတ်မြောက်အောင် မလွဲဧကန်
ကယ်တင်နိုင်ပါအံ့"

တွန်ဂါတာ ကလည်း ခေါင်းညိတ်လိုက်သည်။

” အို… အသင် ဖခင်ကြီး ကျွနုပ်သည် တစ်နေ့ကျလျှင် ဘုရင် လိုဘင်ဂူလာ၏ သချိုင်းဂူအတွင်းသို့ ဝင်ရောက် နိုင်ရန် လိုအပ်သော စက်ယန္တရားကိရိယာများ စုံလင်စွာဖြင့် ပြန်လာကောင်း လာနိုင်ပါလိမ့်မည်”

” ဖြစ်နိုင်ကောင်းပါ၏။ ကျွန်ုပ်အနေဖြင့်လည်း လိုအပ်သော ယဇ်ပူဇော်ခြင်းများပြုလုပ်ထားပါအံ့။ နာမ် လောက မှ ဝိညာဉ်အပေါင်းကိုလည်း တိုင်တည်ပါအံ့။ ထိုအခါ ၎င်းတို့က ကျွန်ုပ်အား ကူညီ စောင့်ရှောက် သည့် အနေဖြင့် ကောင်းသော လမ်းညွှန်မှု များ ပေးကောင်းပေးပါကုန်အံ့”

ပြောရင်းနှင့် အဘိုးကြီးသည် ဂူဝသို့လျှောက်သွားပြီး ကျန်လူများအား အလေးပြုရင်း-

” အို… ကျွန်ုပ်၏ သားသမီးများတို့ အခြေအနေ လုံခြုံစိတ်ချရသောအခါ ကျွန်ုပ် ပြန်လာခဲ့ပါအံ့။ ယခုတော့မူ ငြိမ်းချမ်းစွာ နေကြပါကုန်လော့” ဟု ပြောလျက်ထွက်သွားလေတော့သည်။

”ကျုပ် စိတ်ထဲမှာတော့ ဒီမှာ အကြာကြီးနေရလိမ့်မယ်လို့ ထင်နေတယ်ဗျ။ ပြီးတော့ ဒီနေရာက တယ်ပြီး နေချင်စရာ ကောင်းတာ မဟုတ်ဘူး”

ခရိတ် က သူ့ကိုယ်သူ ပြောသလို ပြောလိုက်သည်။

အမှန်တော့ သူတို့အားလုံးသည် အစဉ်သဖြင့် ဘလူပ်ရှားထကြွသူများ ဖြစ်လေရာ ယခုကဲ့သို့ ကျောက်ဂူကြီး အတွင်း အပြင်ဘက် မထွက်ဘဲ နေရမည်ဖြစ်သောကြောင့် အလိုလို စိတ်ကျဉ်းကျပ်နေမိကြလေသည်။

သို့သော် အခြေအနေအရ မည်သို့မှ မတတ်နိုင်သဖြင့် ဖြစ်သမျှအကြောင်း အကောင်းချည်းဟုသာ သဘောထား လိုက်ကြရလေသည်။

## တက္ကသိုလ် နေဝင်း ဘာသာပြန် ဇင်ဘာဘွေ အခန်း (၃၈)အဆက် (၂)

ကျောက်ဂူ ခန်းမကျယ်ကြီးကို စနစ်တကျ နေရာပိုင်းခြား သတ်မှတ်လိုက်ကြသည်။ အလယ်ကောင်ရှိ မီးဖို ကြီး ပတ်ဝန်းကျင်တွင် အားလုံးအတွက် ပိုင်းထိုင်စကားပြောခြင်း၊ စားသောက်ခြင်းတို့အတွက် သတ်မှတ် ထားပြီး ခရိတ်နှင့် ဆယ်လီတို့အတွက်ထောင့် ကျကျ အစွန်တစ်နေရာ သတ်မှတ်ကာ

တွန်ဂါတာနှင့် ဆာရာ တို့အတွက်လည်း တစ်ဖက်အစွန် ထောင့်နားတွင် နေရာသတ်မှတ်လိုက်ကြသည်။
လိုဏ်ဂူ၏ အပေါ်မှတဆင့် ယိုစိမ့်ကျသောရေကို ကြွေအိုးတစ်လုံးဖြင့် ခံထားခြင်းအားဖြင့် သူတို့အား လုံး အတွက် ရေလုံလောက်လေသည်။

တစ်နေရာတွင် သဘာဝအလျောက်ဖြစ်နေသော တွင်းတစ်တွင်းရှိရာ ယင်းတွင်းကိုပင် အိမ်သာအဖြစ် အသုံးပြုကြလေသည်။
ဤသို့လျှင် လူသားတို့၏ အခြေခံအချက်များ ပြည့်စုံနေပြီဟု ဆိုနိုင်သော်လည်း တစ်ခု လိုနေသေးသည် ကား ဖတ်စရာ စာအုပ်စာတမ်း ဘာမျှမရှိခြင်းပင် ဖြစ်သည်။ အထူးသဖြင့် ခရိတ်လို စာရေးဆရာတစ်ဦးအဖို့ ဖတ်စရာ ဘာစာအုပ်မှ မရှိခြင်းသည် ဦးနှောက်အတွက် ဆာလောင်မွတ်သိပ်စေသကဲ့သို့ ဖြစ်နေတော့ သည်။

ပျင်းရိငြီးငွေ့ခြင်းကို ပြေပျောက်စေရန် ဆရာမ ဆာရာက ဆယ်လီအား မာတာဘယ်လီဘာသာ သင်ကြား ပေး လေသည်။ ဆယ်လီကလည်း စိတ်ပါဝင်စားစွာ လေ့လာဆည်းပူးလေရာ ခဏလေးနှင့်ပင် သူမ သည် အခြားလူများ မာတာဘယ်လီဘာသာဖြင့် စကားပြောလျှင် နားလည်စ ပြုလာလေသည်။ ဆယ်လီ ကိုယ်တိုင် ကလည်း အထိုက်အလျောက် ပြန်ပြောတတ်လာသည်။ ဘာမှ လုပ်စရာမလိုဘဲ အပန်းဖြေ အနားယူသလို နေရသော ထိုကာလအတွင်း တွန်ဂါတာ၏ ကျန်းမာရေး အခြေအနေ သည် သိသိသာသာ တိုးတက်ကောင်းမွန်လာလေသည်။ သူ၏ ခန္ဓာကိုယ်သည် အကျဉ်းစခန်း မှာ ကဲ့ သို့ ပိန်ချုံးမနေတော့ဘဲ မူလအတိုင်း ပြန်လည် ပြည့်ဖြိုးတောင့်တင်းလာလေသည်။ ခွန်အားဗလ လည်း ကောင်းမွန်လာသည်။

ညဘက် စားသောက်ပြီးချိန်တွင် မီးဖိုဘေး၌ ထိုင်ရင်း အာလာပသလ္လာပစကား ပြောကြရာ၌ ခရိတ်သည် တွန်ဂါတာနှင့် အတိတ်ကာလတစ်ခုက ရင်းနှီးစွာ ပေါင်းသင်းခဲ့ရပုံကို ပြန်လည်သတိရမိသည်။
တစ်ခါသော် ဆယ်လီက တောင်အာဖရိကနိုင်ငံ မျက်နှာဖြူအစိုးရ၏ အသားအရောင် ခွဲခြားမှုဝါဒအကြောင်း ဝေဖန်ပြောဆိုရာ တွန်ဂါတာက ဟန်ဆောင်ပြီး မခံချင်ယောင် ဟန်လုပ်၍ ပြောလေသည်။

" မဟုတ်ဘူး ပင်ဒူလာ မဟုတ်ဘူးဗျ"

(မှတ်ချက်။ ။ တွန်ဂါတာက ဆယ်လီအား ပင်ဒူလာဟူသော မာတာဘယ်လီ နာမည်ပေးထားပြီးဖြစ်၍ ယခု ပင်ဒူလာဟု ခေါ်လိုက်ခြင်းဖြစ်သည်။ ပင်ဒူလာ၏ အဓိပ္ပာယ်က စကားတစ်ခွန်း ပြောလိုက်လျှင် ချက်ချင်း တစ်ခု ပြန်လည်ချေပတတ်သူဟူ၍ ဖြစ်သည်။)

"ပင်ဒူလာ ဒီလိုလည်း မပြောပါနဲ့ကွာ။ တောင်အာဖရိကနိုင်ငံက မျက်နှာဖြူအစိုးရကို ရှုတ်ချမယ့်အစား ငါတို့ အာဖရိကနိုင်ငံက မျက်နှာဖြူ အစိုးရကို ရှုတ်ချမယ့်အစား ငါတို့ အာဖရိကတိုက်သား လူမည်းတွေက ကျေးဇူးတောင် တင်ဖို့ကောင်းတယ်။ သူတို့က နှိပ်စက်ညှင်းပန်းလို့သာ အာဖရိက တိုင်းရင်းသား လူမျိုးစု အမြောက် အမြားဟာ အရင်က အချင်းချင်း ကွဲနေရာက စည်းလုံးညီညွတ်လာတယ်။ တစ်သွေးတစ်သံ တည်း။

ငါတို့က မျက်နှာဖြူ နယ်ချဲ့သမား၊ အသားအရောင် ခွဲခြားရေး ဝါဒီတွေ လို့ဟစ်အော် ကြွေးကြော်လိုက်တာနဲ့ စောစောက အချင်းချင်း တိုက်နေကြတဲ့ တိုင်းရင်းသား လူမျိုးစုတွေ အားလုံးဟာ တိုက်ခိုက်တာတွေ ချက်ချင်း ရပ်စဲပြီး ညီရင်းအစ်ကိုတွေလို ဖြစ်လာတယ် မဟုတ်ပါလား"
ဆယ်လီ သည် အလွန်သဘောကျမိလျက် လက်ခုပ်လက်ဝါးတီး၍ ဩဘာပေးလိုက်သည်။

"တောင်အာဖရိက ညီညွတ်ရေးအဖွဲ့ချုပ်(အိုအေယူ) ညီလာခံမှာ အဲဒီလို မိန့်ခွန်းမျိုး ရှင်ပြောတာ ကျွန်မ ကြားချင်လိုက်တာ"
ဆယ်လီက ပြောလိုက်ရာ-
တွန်ဂါတာကလည်း သဘောကျဟန်ဖြင့် ပြုံးလိုက်သည်။ သူတို့နှစ်ဦးသည် တဖြည်းဖြည်းနှင့် ခင်မင်ရင်းနှီး လာကြပြီ ဖြစ်သည်။
" နောင်တစ်ခု ငါတို့ ကျေးဇူးတင်စရာ ရှိသေးတယ်ကွဲ့"
"ဟုတ်လား ဆိုစမ်းပါဦးရှင့်"

"တောင်အာဖရိကနိုင်ငံတွင်းမှာ ရှိတဲ့ တိုင်းရင်းသားလူမျိုးအုပ်စုတွေက အလွန်စစ်မက်တိုက်ခိုက်ခြင်း

ဝါသ နာပါသူတွေ ဖြစ်တယ်။ ဇူးလူး၊ ဇိဆာ၊ ဆွာနာဆိုတဲ့ လူမျိုးအုပ်စုတွေဆိုရင် အလွန်ရက်စက်ကြမ်းကြုတ်ပြီး တိုက်ခိုက်ချင်ကြတဲ့ လူမျိုးတွေဖြစ်တယ်။ အခု ငါတို့မှာ ရှုနာလူမျိုး တစ်မျိုးတည်းကို တိုက်နေရတာတောင် မလွယ်ဘူး။ တကယ်လို့သာ တောင်အာဖရိက နိုင်ငံက ဇူးလူးလူမျိုးလို တိုင်းရင်းသား အုပ်စုတွေကပါ ငါတို့ကို လာတိုက်မယ်ဆိုရင် ဘယ်စားသာပါ့မလဲ။ အခုတော့ တောင်အာဖရိက မျက်နှာဖြူ အစိုးရကြောင့် တိုင်းရင်းသားတွေ စည်းလုံးညီညွတ်တေနေတာ ဘယ်လောက် နေရာကျသလဲ။ ဒါကြောင့် ငါတို့အနေနဲ့ တောင်အာဖရိက နိုင်ငံက မျက်နှာဖြူတွေကို ထိုင်ရှိခိုးဖို့တောင် ကောင်းတယ်"

ဆာရာက ဆယ်လီအား တောင်းပန်သလို ဝင်ပြောရှာသည်။
"ဒါမျိုးတွေ သူ့ကို အားမပေးစမ်းပါနဲ့ ဆယ်လီရယ်။ တစ်နေ့ကျရင် သူဒီလိုပြောတာကို တကယ် အလေး အနက် သဘောထားတဲ့လူတွေ သွက်လက်ခြင်းမရှိဘဲ အလွန်လေးနက်တည်ကြည်သော ဣန္ဒြေကြီးနှင့် နေတတ်ပြီး ဇင်ဘာတွေနိုင်ငံအကြောင်းကို နာကြည်းရင်နာစွာဖြင့် ဆွေးနွေးလေ့ ရှိလေသည်။

"ငါတို့နိုင်ငံမှာဖြစ်နေတဲ့ အခြေအနေက အိုင်ယာလန်နိုင်ငံလို၊ ပါလက်စတိုင်းမှာလို ဖြစ်နေတယ်။ ဒါတင်မကသေးဘူး၊ တို့နိုင်ငံက အဖြစ်ဟာ ပိုပြီးတောင် ဆိုးသေးတယ်။ အခု ငါတို့ (မာတာဘယ်လီ) လူမျိုးနဲ့ ရှုနာတိုင်းရင်းသားတို့ရဲ့ ပဋိပက္ခမှုဟာ သေးငယ်သယောင် ထင်ရပေမယ့် တကယ်ကျတော့ အာဖရိကတိုက် တစ်တိုက်လုံးရဲ့ ပြဿနာကြီးတစ်ခုလို့ ဆိုနိုင်တယ်"
"အဲဒီ ပြဿနာရဲ့ အဖြေကိုတော့ ရှင် စဉ်းစားမိပါသလား"
ဆယ်လီက မေးလိုက်ပြန်ရာ တွန်ဂါတာသည် မျက်နှာထားတည်တည်နှင့်ပင် ခေါင်းညိတ်ပြလေသည်။

"စဉ်းစားလို့ရတဲ့အဖြေက အလွန်ခက်ခဲပြီး အလွန် ကြမ်းတယ်လို့ ဆိုရမယ်။ ဆယ့်ကိုးရာစုနှစ်များအတွင်းက ဥရောပနိုင်ငံတွေဟာ အာဖရိကတိုက်ကို အလုအယက်လာရောက်ကြပြီး သူတို့ လက်အောက်ခံ ကိုလိုနီတွေရဖို့ တစ်ခုတည်းသာ စဉ်းစားကြတဲ့အတွက် အလျင်စလို နယ်မြေတွေ ခွဲဝေယူခဲ့ကြတယ်။ နယ်မြေတွေရဲ့ နယ်ခြားနယ်နိမိတ် ပိုင်းခြားသတ်မှတ်ရာမှာလည်း ရှုထောင့်စုံက မကြည့်ဘဲ ဖြစ်သလို

ပြီးစလွယ်လုပ်ခဲ့ကြတယ်။ ဒီအချက်ကို အာဖရိက ညီညွတ်ရေးအဖွဲ့ချုပ်ရဲ့ ဖွဲ့စည်းပုံမှာတောင် အပိုဒ်တစ်ပိုဒ်အဖြစ် ထည့်ထားပါတယ်။

အခုပြဿနာကိုလည်း ဖြေရှင်းဖို့ နည်းတစ်နည်းက နယ်နိမိတ်တွေ အသစ်ပြန်လည်သတ်မှန်ဖို့ပဲ။ သို့သော်လည်း အိန္ဒိယနဲ့ ပါကစ္စတန် ခွဲလိုက်ချိန် က ဖြစ်ပေါ်ခဲ့တဲ့ အလွန်ခါးသီးသော အတွေ့ အကြုံ ကြောင့် ဘယ်သူကမှ ဒီသဘောထားကို ထောက်ခံအားပေးမှာ မဟုတ်ဘူး ဒါကြောင့် အခုနေအခါမှာ ဖြစ်နိုင် တဲ့ တခုတည်းသော ဖြေရှင်းနည်း က ဖယ်ဒရယ်လ် ပုံစံ (အမေရိကန် ပြည်ထောင်စု ပုံစံမျိုး) နဲ့ ပြန်လည် ဖွဲ့ စည်းကြဖို့ဘဲဖြစ်တယ်။ နိုင်ငံတခုမှာ သီးခြားလွတ်လပ်ခွင့် ရှိတဲ့ ပြည်နယ်ကလေး များ ဖွဲ့စည်းထားပြီး ပြည်နယ်အားလုံးကိုမှ ပြည်ထောင်စု ပုံသဏ္ဍာန် ဖွဲ့စည်း အုပ်ချုပ်ရင် ဖြစ်နိုင်တယ်။

ဤသို့လျှင် ခရိတ်နှင့် တွန်ဂါတာ သည် အာဖရိကတိုက် အနာဂတ်ကံကြမ္မာကို နိုင်ငံရေး အမြင်ဖြင့် သုံးသပ် ဆွေးနွေးတတ်လေသည်။
ခရိတ် နှင့် တွန်ဂါတာ နှစ်ယောက်စလုံးက မိန်းခလေး နှစ်ဦးအား အပျင်းလည်း ပြေစေ၊ ဗဟုသုတလည်း ရစေ ဟူသော ရည်ရွယ်ချက်ဖြင့် ဇင်ဘာဘွေ နိုင်ငံ၏ အတိတ်သမိုင်းကြောင်းကို ပြောပြကြလေသည်။

သူတို့ နှစ်ဦး အနေဖြင့် မိမိတို့ လူမျိုး အသီးသီးဘက်မှ ရှုထောင့်အမြင်ဖြင့် ဇင်ဘာဘွေ ခေါ် (မူလအမည်) ရိုဒီရှားနိုင်ငံ ဖြစ်ပေါ်လာပုံနှင့် တကွ မိမိတို့ မိသားစု များက သမိုင်း တွင် မည်သို့ ပါဝင်ခဲ့ကြပုံ စသည် တို့ကို လည်း ပြောပြကြလေသည်။

သူတို့၏ မီးဖိုဘေး စကားဝိုင်းသည် နှစ်ကြိမ်တိုင်တိုင် ပြင်ပမှ အသံများကြောင့် အနှောင့်အယှက် ဖြစ်ခဲ့ရသေးသည်။ အသံများက ရဟတ်ယာဉ် ၏ ပန်ကာလည်သံပင် ဖြစ်သည်။ ထိုအခါ သူတို့သည် အတိတ်က သမိုင်းကြောင်းကို ခေတ္တမေ့ထားလိုက်ပြီး ထွက်ပြေးလွတ်မြောက်ရေးကိစ္စ ကို သာဆွေးနွေး ကြပြန်သည်။

အဘိုးကြီး ပူဆာမန်ဇီ၏ ကျေးရွာမှ အမျိုးသမီးများသည် တစ်ရက်ခြား မှန်မှန်

လာရောက်ကြလေသည်။ သူတို့သည် ရန်သူ ရှီနာစစ်သား များမမြင်အောင် နံနက်အရုဏ် မတက်မီမှောင်နေဆဲ အချိန် လာရောက်ပြီး အစားအစာ နှင့် သတင်းများ ယူလာကြသည်။

အမျိုးသမီးများထံမှ အောက်ပါ သတင်းများကို ကြားသိရလေသည်။ တတိယ တပ်မဟာမှ ရှီနာစစ်သား များသည် ကျေးရွာသို့ လာရောက်ကြရာ ရှေးဦးစွာ ရွာပတ်ပတ်လည်ကို ဝိုင်းထားလိုက်ပြီး မှ ရွာတွင်း သို့ ဝင်၍ တအိမ်တက်ဆင်း လိုက်လံ ရှာဖွေကြသည်။ မိန်းကလေးငယ် တဦး အား လက်ထိတ်ခတ်ထားလိုက်ပြီး အဘိုးကြီး ပူဆာမန်ဇီ ကိုလည်း အမျိုးမျိုး ခြိမ်းခြောက် စစ်မေးခဲ့သည် ဟုဆိုသည်။

## တက္ကသိုလ် နေဝင်း ဘာသာပြန် ဇင်ဘာဘွေ အခန်း (၃၈)အဆက် (၃)

သို့သော် အဘိုးကြီးက လုံးဝကြောက်ရွံ့တုန်လှုပ်ဟန် မပြဘဲ ခပ်တည်တည် နှင့်ပင် စစ်သားများအား ရင်ဆိုင် ကာ ဘာမျှမသိကြောင်း ဘူးကွယ်ခဲ့သည်။
နောင်ဆုံးတွင် စစ်သားများသည် အဘိုးကြီး၏ မှော်အတတ်ပညာကိုလည်း ကြောက်နေသဖြင့် လက်လျှော့ သွားကြလေသည်။

ရှီနာစစ်သားများသည် ရွာသားများအား နှိပ်စက်ညှင်းပန်းခြင်း၊ ပစ္စည်းလုယူခြင်း မပြုလုပ်ပဲ ပြန်သွားကြ သည်ဟု ဆိုသည်။ သို့သော် နောက်ထပ် လာခဲ့ဦးမယ်ဟု ကြိုးဝါးသွားသေးသည်ဟု သိရသည်။
ထို့ပြင် ရှီနာစစ်သားများသည် မိမိတို့အဖွဲ့အား အပြင်းအထန် တောနင်းရှာဖွေ နေကြသည်ဟုလည်း သတင်းကြား ရလေသည်။ စစ်သားများသည် ခြေကျင် လျှောက်၍ လည်းကောင်း၊ ကောင်းကင်မှ ရဟတ်ယာဉ် ဖြင့် လည်းကောင်း အဆက်မပြတ် လိုက်လံရှာဖွေနေကြသည် ဆို၏။

ထိုအတောအတွင်း အကျဉ်းစခန်းမှ ထွက်ပြေးလွတ်မြောက်ခဲ့သူ အတော်များများ လည်း ပြန်လည် ဖမ်းဆီး ရမိသွားခဲ့ သည်။
အကျဉ်းသားများအား စစ်ကားကြီးဖြင့် တင်ခေါ်သွားသည်ကို ကျေးရွာမှ မိန်းက လေးများကိုယ်တိုင် မြင်လိုက် ရလေသည်။ အကျဉ်းသားများမှာ အဝတ် အစားမပါ ဘဲ သံကြိုးကြီးများဖြင့်

ချည်နှောင်ထားခြင်း ခံရသည် ဟုလည်း သိရသည်။

အဘိုးကြီး ပူဆာမန်ဇီ၏ စုံစမ်းထောက်လှမ်းချက်အရ ရှီနာစစ်သားများသည် ဆယ်လီ၏ စက်ဆာနာ လေယာဉ်ပျက် ကို ရှာမတွေ့ကြသေးချေ။ သို့ဖြစ်လင့် ကစားအခြေအနေက အန္တရာယ် အလွန်များလျက်ပင် ရှိသေး သဖြင့် ခရိတ်တို့ လူစုအား လိုဏ်ဂူအပြင်ဘက် လုံးဝမထွက်ဘဲမနေရန်နှင့် အခြေအနေပေးပါက အဘိုးကြီးကိုယ်တိုင် လာရောက်တွေ့ဆုံမည် ဖြစ်ကြောင်းကို မိန်းမလေးများ တစ်ဆင့် ပူဆာမန်ဇီက မှာကြားလိုက် သည် ဆို၏။

မိန်းကလေးများထံမှ ကြားသိရသော သတင်းများက သူတို့အဖွဲ့သားများအား စိတ်ဓာတ်ကျစေလေရာ ခရိတ် က အထူးကြိုးစား၍ စိတ်ပြေပျောက်အောင် ပုံပြင်များ၊ သူ၏ အတွေ့အကြုံများကို အဆက်မပြတ် ပြောခဲ့ ရလေသည်။
ကျန်လူများ စိတ်ဝင်စားစေရန် ခရိတ်က ဘုရင်လိုဘင်ဂူလ၏ သချိုင်းဂူ အကြောင်းနှင့် တကွ ယင်းသချိုင်း အတွင်းရှိ စိန်ရတနာများက မည်မျှ တန်ဖိုးကြီးမားလှပုံ စသည်တို့ကိုလည်း ပြောရင်း စိတ်ပြေပျောက် စေ ခဲ့လေသည်။

ဤတွင် သူတို့သည် စိတ်ဝင်စားလာကာ ရေအိုင်အောက်ထဲရှိ သချိုင်းဂူရှိရာသို့ ဆင်းငုပ်ရန် ခေတ်မီ ရေငုပ်ကိရိယာ များနှင့် ကျွမ်းကျင်သော ရေငုပ်သမားများ လိုအပ်ပုံ စသည်တို့ကို ဆွေးနွေးတိုင်ပင် လာကြ လေသည်။
ဆယ်လီ သည် တွန်ဂါတာအား မေးခွန်းတစ်ခု မေးလေသည်။

"ဒီမယ် ကျွန်မကို ပြောပြစမ်းပါရှင့်။ တကယ်လို့ သူတို့ပြောတဲ့အတိုင်း အဖိုး အဖြတ်နိုင်တဲ့ စိန်ရတနာတွေ တကယ်ပဲ ရှိလို့ ရှင်တို့က ရှာဖွေရရှိပြီ ဆိုပါတော့။ ဒါတွေကို ရှင်က ဘယ်လို အသုံးချမှာလဲဟင်"
"ကျုပ်ကတော့ ဒီရတနာပစ္စည်းတွေကို မာတာဘယ်လီ လူမျိုးတွေ ပိုင်ဆိုင်ခွင့်ရှိ တယ်လို့ ယူဆတယ်။ ဒါကြောင့် ကျုပ်သဘောက ရတနာတွေကို ဂေါပကအဖွဲ့ တစ်ဖွဲ့ ဖွဲ့စည်းပြီး ထိန်းသိမ်းစောင့်ရှောက်ထားဖို့ တာဝန် ပေးလိုက်မယ်။

နိုင်ငံရေး အရ မာတာဘယ်လီ လူမျိုးတွေ အခုထက်ပိုပြီး နေရာရအောင် အသုံးချမယ်။ ဗြိတိသျှ နိုင်ငံခြားရေးရုံးနဲ့ အမေရိကန် နိုင်ငံခြားရေးဝန်ကြီးဌာနတွေက ကျုပ်တို့ လူတွေကို ပိုပြီး လေးလေးနက်နက် ဂရုစိုက် လာအောင် ကြိုးစားမယ်။ အဲဒါတွေ လုပ်ဖို့နဲ့ ဟာရာရေမြို့တော်က ဇဟိုအစိုးရက ကျုပ်တို့ လူမျိုး တွေကို လေးလေး စားစား သဘောထားပြီး ဆက်ဆံလာအောင် စေ့စပ်ညှိနှိုင်းပြောဆိုဖို့ လူတစ် ယောက် ကို လည်း ရွေးချယ်လိုက်မယ်"

တွန်ဂါတာက ဤသို့ပြောရာ ဆယ်လီကပင် ဆက်လက်၍-
"ဟုတ်ကဲ့ အဲဒါတွေပြီးတော့ ရှင်က မာတာဘယ်လီလူမျိုးတွေရဲ့ ကျန်းမာရေး၊ ပညာရေး စတဲ့ လူမှုရေး ကိစ္စတွေရယ်၊ အမျိုးသမီးများ တန်းတူအခွင့်အရေး ရရှိဖို့ရယ်၊ အဲဒါတွေ ဆက်လုပ်မှာ မဟုတ်လားရှင့်" ဟု မေးလိုက် ပြန်သည်။

ထိုအခါ ခရိတ်ကပင် ဝင်၍
"ပြီးတော့ သူငယ်ချင်းက မာတာဘယ်လီလူမျိုးတွေရဲ့ မြေယာတွေမှာ ခေတ်မီစိုက်ပျိုးရေး လုပ်ငန်းတွေ ဖြစ်အောင် လည်း ကြိုးစားမယ် မဟုတ်လား"ဟု ပြောလိုက်လေသည်။
ဆယ်လီ သည် ခရိတ်ဘက်သို့ လှည့်၍-
"ဒီမယ်ရှင့်၊ ရေအောက်ထဲက ဘုရင့်ရဲ့ သင်္ချိုင်းဂူကို ရောက်အောင်သွားဖို့ တခြားနေရာလည်း မရှိတော့ ဘူးလား။ ရှင်ကိုယ်တိုင် နောက်ထပ်တစ်ချီ ရေထဲဆင်းငုပ်ရင် မဖြစ်ဘူးလား"ဟု မေးလိုက်ရာ ခရိတ်က ခေါင်းခါ ပြလေသည်။

"ဆယ်လီကလည်းကွာ မဖြစ်နိုင်လို့ပေါ့။. ငါ့အနေနဲ့ တစ်ကြိမ်ဆင်းငုတ်ရင် ဂူဝက ကျောက်တုံးတစ်လုံးပဲ ဖယ်ရှား ပစ်လို့ရမယ်။ အဲဒီနည်းနဲ့ ငါက နှစ်ဆယ့်ငါးကြိမ်လောက် ဆက်တိုက်ငုတ်ရမယ်ဆိုရင် ငါသေသွား မှာ သေချာ တယ်"
"ဒီလိုဆိုတော့ စိတ်ပျက်စရာကြီးပါလား။ ကျွန်မဖြင့် စိတ်ထဲ မတင်မကျကြီး ဖြစ်နေမိတယ်။ တစ်ခုခုလုပ်ရမှပဲ စိတ်ထဲ မချင့်မရဲဖြစ်ဟန်ဖြင့် ထပြီး စကြံလျှောက‌နေလေသည်။သို့သော် ချက်ချင်းလိုပင် စိတ်ကို ပြန်လည် ချုပ် ထိန်း လိုက်ပုံ ရလေသည်။

"ကျွန်မကို ခွင့်လွှတ်ကြပါနော်။ ကျွန်မ စိတ်လှုပ်ရှားလွန်းရင် ဒီလိုပြောမိပြောရာ ပြောတတ်လို့ပါ။

အလို စကားကောင်း ပြောနေလိုက်ရာ အချိန်က သန်းခေါင် တောင်ကျော်သွားပြီရှင့်" ။ သို့နှင့်ပင် စကားဝိုင်းသိမ်း ၍ အိပ်ရာဝင်ကြလေသည်။
သို့သော် ဆယ်လီသည် အိပ်မပျော်နိုင်ဘဲ ခရိတ်အား ခပ်တိုးတိုး ဆက်ပြော နေပြန်သည်။

" တွန်ဂါတာ ထောင်ကျခဲ့ရတာဟာ ကျွန်မရဲ့ ပယောဂမကင်းလို့ စိတ်မကောင်းပါဘူးရှင်။ စင်စစ် သူဟာ အလွန် လေးစား ဖို့ကောင်းတဲ့ ယောကျ်ားတစ်ယောက်ပါပဲ"
"ဒီလိုလည်း စိတ်မကောင်း ဖြစ်မနေပါနဲ့ကွယ်"
"ဘာပဲဖြစ်ဖြစ် ဒီကမ္ဘာလောကကြီးမှာ တရားမျှတမှုရှိဖို့ သင့်တယ်"
"ကဲပါ ဒါတွေ စဉ်းစားမနေပါနဲ့။ အိပ်ပျော်အောင်သာ အိပ်ပါတော့"
ခရိတ် က ပြောပြီး စကားပြတ်သွားကြလေသည်။

ဆယ်လီ က အိပ်လိုက်သော်လည်း ခရိတ်ကမူ အိပ်မပျော်နိုင်ဘဲ ရောက်တတ် ရာရာ စဉ်းစားနေမိလေသည်။
စဉ်းစားနေရင်း တစ်စုံတစ်ခုကို သတိရသဖြင့် သူသည် ချက်ချင်းထထိုင်ကာ ဆယ်လီအား နှိုးလိုက်လေသည်။
"ဟေ့...ဆယ်လီ ထပါဦးကွ"
"ဘာများလဲရှင့် အရေးထဲအလန့်တစ်ကြားနဲ့"
" မင်းရဲ့ စက်ဆနာလေယာဉ်မှာ အောက်ဆီဂျင်ပေးတဲ့ ကိရိယာ တပ်ဆင်ထား တယ် မဟုတ်လား"

"ဟုတ်တယ်လေ၊အဲဒါ ဘာဖြစ်သလဲ။ တစ်ခါတလေ ကျွန်မက ကောင်းကင် အမြင့် ပျံသန်းရတဲ့အခါ အသက်ရှူ နိုင်အောင် တပ်ဆင်ထားတာပဲ"
"ဟုတ်ပြီ စောစောက ငါဒါကို စဉ်းစားမိဖို့ကောင်းတယ်"
ခရိတ် က ပြောနေစဉ်မှာပင် တွန်ဂါတာသည် တစ်ရေးနိုးလာသဖြင့် သူတို့အနီးသို့ လျှောက်လာလေသည်။

"ဘာတွေ စကားကောင်းနေတာလဲဗျာ"
ထိုအခါ ခရိတ်က တွန်ဂါတာအား စူးရှတောက်ပြောင်သော မျက်လုံးများဖြင့် ကြည့်လိုက်သည်။

"ဒီမယ် သူငယ်ချင်း ကျုပ်တို့ နှစ်ယောက် ခဏ လမ်းလျှောက်ထွက်ရင်း စကား ပြောကြရအောင်"
"အခု အချိန်မတော်ကြီး လမ်းလျှောက်ထွက်မှာလား"

"ဟုတ်တယ်၊ အခုချက်ချင်းပဲ မှောင်နေတုန်းမှာ လမ်းလျှောက်ကြမယ်"
ခရိတ် က ပဟေဠိဆန်ဆန် ပြန်ပြောလိုက်သည်။

[တက္ကသိုလ် နေဝင်း ဘာသာပြန် ဇင်ဘာဘွေ အခန်း (၃၉)]

**အခန်း (၃၉)**

ကောင်းကင်တွင် လရောင်အသင့်အတင့်ရှိနေသဖြင့် ခရိတ်နှင့် တွန်ဂါတာတို့ သည် အခက်အခဲမရှိဘဲ အဘိုးကြီး ပူဆန်မန်ဇီ၏ ကျေးရွာသို့ လျှောက်သွားနိုင်ကြလေသည်။ သူတို့ သည် အဘိုးကြီး ရုတ်တရက် လန့်မသွားစေရန် အထူးသတိထား၍ ရွာသို့ ချဉ်းကပ်သွားကြလေသည်။ ရွာသို့ သွားရာ၌ တောင်ပေါ်ဒေသရှိ လူသွားလမ်းကလေးတစ်ခုမှ ဖြတ်သွားရ လေရာ တစ်နေရာတွင် ခွေးတစ်ကောင်က သူတို့အား ဟောင်လိုက်လေသည်။ သို့သော် ခရိတ်က တွန်ဂါတာတို့ က လျက်မြန်စွာ သုတ်ခြေတင် သွားသဖြင့် ခွေးသည် ဝေးကွာကျန်ရစ်ခဲ့လေသည်။

နံနက်မိုးလင်းသည့်တိုင်အောင် သူတို့သည် လူသွားလမ်းတွင်ပင် ရှိနေကြ သေးသည်။ လမ်း၌ သူတို့ နှစ်ကြိမ်ကြိမ်တိုင်တိုင် လမ်းဘေးချုံပုတ်များအကြား ဝင်၍ ပုန်းနေခဲ့ လေသည်။ တကြိမ်တွင် သူတို့ သည် ရှိုနာစစ်သား ကင်းလှည့်တပ်ဖွဲ့ တဖွဲ့နှင့် ပက်ပင်း တိုးတော့မလို ဖြစ်သွားခဲ့သည်။ ရှေ့မှ သွားနေသူ တွန်ဂါတာက ရန်သူစစ်သားများအား ကြိုတင်မြင်ပြီး ခရိတ်အား လက်ဖြင့် အချက်ပြ သတိပေး လိုက်၍ သာ နှစ်ယောက်သား အချိန်မီ ဝင်ပုန်းနေနိုင်ခြင်း ဖြစ်လေသည်။ သူတို့ သည် မြက်ပင်ရှည်ကြီး များ အကြား ဝင်ပုန်းနေလိုက်ကြသည်။ ရှိုနာ စစ်သားများဖြတ်၍ သွားသည်အထိ ပုန်းနေစဉ် ခရိတ်သည် အထူးပင် သည်းထိတ်ရင်ဖိုဖြစ်နေမိသည်။

ကျုပ်က အသက်နည်းနည်း ရလာလို့လားမပြောတတ်ဘူး အခုလို အချိန်မျိုးမှာ
တုန်လှုပ်ချောက်ချားမိတယ် ဟု ပြန်ပြောလေသည်။
ကျုပ်လည်း ပဲ မထူးပါဘူး ခင်ဗျားလိုပဲ စိတ်ထဲက ချောက်ချားမိတယ် ဟု ပြန်ပြောလေသည်။

ဒုတိယအကြိမ် ဝင်ပုန်းကြပုံက ကောင်းကင်မှ ရဟတ်ယာဉ် တစင်း၏ ပန်ကာဒလက် များ အသံကို
ကြားလိုက် ရ၍ ဖြစ်သည်။ ရန်သူဘက်မှ ကင်းထောက်ရဟတ်ယာဉ် မှန်းသိသဖြင့် သူတို့သည်
လျင်မြန်စွာ လမ်းဘေး ရှိ ချုံနွယ်ပိတ်ပေါင်း များအကြား တိုးဝင်ကာ ပုန်းနေလိုက်ရသည်။
သူတို့အပေါ်မှ ရဟတ်ယာဉ် ဖြတ်သန်းပျံသွားသည်ကို လှမ်းကြည့်လိုက်သောအခါ
ရဟတ်ယာဉ်ပေါ်၌ စက်သေနတ်သမား တစ်ဦးပါလာ သည်ကို မြင်ရလေသည်။

သို့သော် ရဟတ်ယာဉ်က သူတို့အား မမြင်ဘဲ ဆက်လက် ပျံသန်း သွားလေသည်။
ခရိတ် နှင့် တွန်ဂါတာ တို့သည် ရွာကို ကွေ့ရှောင်ပြီး တောလမ်းအတိုင်း ဆက်လျှောက်သွားကြရာ
ခရီးက အတော်ပင် ဝေးသဖြင့် မွန်းတည့်ချိန်ကျော်ပြီး နေစောင်းတော့မှ သာ
စက်ဆနာလေယာဉ်ပျက် ဝှက်ထားရာ နေရာသို့ ရောက်သွားကြလေသည်။

သူတို့ ဖုံးကွယ်ထားသော လေယာဉ်ပျက်ကို အခြားသူ တစ်စုံတစ်ယောက်
တွေ့ရှိသွားခဲ့လေသလော ဟု သေချာစွာ ဂရုစိုက် စိစ်ဆေး ကြည့်ရှု ကြလေသည်။ ရန်သူ ဘက်က
တွေ့သွားပြီး ယခု မိမိတို့အလာကို ကင်းပုန်းဝပ်၍ စောင့်နေသလော ဟူ၍ လည်း ရန်သူ၏
အရိပ်အယောင်ကို သေချာစွာ ရှာဖွေ ကြည့်ကြ သည်။

သေချာတော့မှ သူတို့သည် လေယဉ်အနီးသို့ ချဉ်းကပ်သွားကြပြီး အနီးကပ်
လေ့လာကြည့်သောအခါ မည်သူမှ တွေ့ရှိပုံမရဘဲ မူလအတိုင်း လက်ရာမပျက် ရှိနေကြောင်း
တွေ့ရလေသည်။
တွန်ဂါတာ က အေကေ ၄၇ ရိုင်ဖယ် သေနတ်ဖြင့် ကင်းစောင့် ပေးနေစဉ် ခရိတ်သည်
လေယာဉ်ပေါ်သို့ တက်၍ သူအလိုရှိသော ပစ္စည်းကို ဖြုတ်ယူလေသည်။
ဆယ်လီ ပြောပြလိုက်သည့်အတိုင်း လိုက်ဖ်ဂျက်ကက်ကို ပေါ်နေစေရန် လေမှုတ်သွင်း နိုင်သည့်
ကာဗွန်ဒိုင် အောက်ဆိုဒ် ဓါတ်ငွေ့ ဆေးတောင့်များလည်း ပါသည့်ပြင် ဘက်ထရီ ဓါတ်ခဲသုံး

မီးလုံးတခုစီ ဝတ်စုံ ၏ ရင်ဘတ်နေရာတွင် ပါရှိလေသည်။

ထို့ပြင် ယင်းလိုက်ဖ် ဂျက်ကက်ဝတ်စုံမှာ ချို့ယွင်း သွားပါက ပြင်ဆင်ပြုပြင်ရန်လိုအပ်သော ကရိယာ (ကတ်ကြေး ပလာစတာ စသည်တို့) ပါသည့် သေတ္တာငယ် တခုကိုလည်း ပိုင်းလော့ (လေယာဉ်မှူး) ထိုင်ခုံအောက် တွင် တွေ့ရလေသည်။ သံမဏိ ဖြင့် ပြုလုပ်ထားသော အောက်ဆီဂျင် ဓါတ်ဗူး များသည် ခရီးသည် ထိုင်ခုံများ၏ အနောက်ဘက် လေယာဉ် နံရံတွင် ဝက်အူဖြင့် စုပ်၍ တပ်ဆင်ထားလေသည်။ စုစုပေါင်း သုံးဘူးတွေ့ရပြီး တစ်ဘူးလျှင် အရွယ် ပမာဏ အားဖြင့် သုံးလီတာခန့် ရှိသည်။

ယင်းနှင့် တွဲဖက်သုံးသည့် ဓါတ်ငွေ့ကာ မျက်နှာဖုံးများလည်း တွေ့ရသည်။ ထိုပြင် အသုံးပြုသူက ရှူထုတ်လိုက်သော ကာဗွန် ဒိုင်အောက်ဆိုဒ် အဆိပ်ငွေ့များကို ပြန်လည် သန့်စင်၍ အောက်ဆီဂျင် အဖြစ် သို့ ရောက်အောင် ပြုပြင်ပြောင်းလဲပေးသည့် ကိရိယာလည်း ပါရှိလေသည်။
ခရိတ်သည် ထိုပစ္စည်း များကို အထူးသတိထားလျက် ဖြုတ်ယူလိုက်သည်။ ထို့နောက် ထိုင်ခုံများပေါ်တွင် ဖုံးအုပ်ထားသော ထိုင်ခုံအစွပ်များကို ဖြုတ်ယူ၍ ပစ္စည်းများ ထုပ်ယူလိုက်ရာ ပစ္စည်းကိရိယာ အတော် များသဖြင့် အထုပ် နှစ်ထုပ်ဖြစ်အောင် ထုပ်ပိုးလိုက်ရသည်။

အားလုံးပြီးစီးသော အခါ လေယာဉ် ပျက်ပေါ်မှ ပြန်ဆင်း၍ ခပ်လှမ်းလှမ်း ရှိ တောင်ကမူထိပ်တွင် ကင်းစောင့် နေသူ တွန်ဂါတာအား လေချွန်၍ ပြန်ခေါ်ယူလိုက်သည်။
အချိန်မှာ ညနေစောင်း၍ မှောင်စပြုနေပြီ ဖြစ်သည်။ နှစ်ယောက်သား ပြန်ထွက်လာကြသောအခါ မြေကြီးပေါ် တွင် ထင်ကျန်ရစ်သော သူတို့၏ ခြေရာများကို ကြိုးစား၍ ဖျောက်ဖျက်ပစ် လိုက်ကြလေသည်။

ထို့နောက် နှစ်ယောက်သား ခပ်သုတ်သုတ် လျှောက်ထွက်ခဲ့ကြရာ လမ်းတွင် လုံးဝ မရပ်နားဘဲ ဆက်လျှောက် သွားကြသဖြင့် နံနက် အရုဏ်တက်ချိန်တွင် တောင်ပေါ်ဒေသရှိ ဂူကြီးသို့ ပြန်ရောက် သွားကြလေသည်။
ဆယ်လီ သည် ခရိတ်ကို မြင်လျှင် ဘာမှမပြောဘဲ ပြေးလာပြီး ခရိတ်၏ ရင်ခွင်တွင် ဦးခေါင်းကို မှီထား လိုက်သည်။

